ရင်း နှီး မြှုပ်နှံ မှုနှင့်ကုမ္ပဏီများ ညွှန်ကြား မှုဦး စီး ဌာန

ပြန်ကြား ရေး နှင့်လုပ်ငန်း ညှိနှိုင်း ရေး ဌာန

ဝင်စာတင်ပြလွှာ

အကြောင်း အရာ။ ။ Cityman

| ရက်စွဲ | ကောင်ရွက်ရန် | မှတ်ချက် |
|---|---|---|
| 12.1.98 | စီးတီးမင်း ကုမ္ပဏီလီမိတက်မှ တင်ပြလာသော၊ လုပ်ကောင်း၊ [illegible] သဘောတူညီချက် နှင့် [illegible] စည်းကမ်းချက် အချို့ကို ပြင်ဆင်ကြောင်း [illegible] တင်ပြလာခြင်းဖြစ်ပါ၍ ဥပဒေရေးရာ သဘောထား ပေးနိုင်ပါရန် ပေးပို့အပ်ပါသည်။<br><br>12/1/98<br>(ကျော်ဦး)<br><br>ဥပဒေဌာနခွဲ<br><br>12/1/98 | |

1253
6.4.98

အထွေထွေအရပ်ရပ်-၁၆

(ရုံးတွင်း စာအကျဉ်း ချုပ်သို့တည်း မဟုတ် စာကြမ်း ရေး ရန်အတွက်)

အကြောင်းအရာ။ ။ <u>စီးတီးမင်း ကုမ္ပဏီလီမိတက်မှ ဟိုတယ်၊ ပလာဇာ၊ ရုံးခန်း၊ ဈေးဆိုင်ခန်းနှင့်ကွန်ဒိုမီနီယံ ၊ (Construction and Leasing of Hotel , Plaza , Office , Super Market & Condominium - )တည်ဆောက်ပြီးငှားရမ်းခြင်းလုပ်ငန်း ဆောင်ရွက်ရန်ကိစ္စ</u>။

၁။ မြန်မာကုမ္ပဏီဖြစ်သော စီးတီးမင်း ကုမ္ပဏီလီမိတက်( City Man Co.Ltd.)သည်၊ မန္တလေးမြို့စည်ပင်သာယာရေးကော်မတီပိုင် မြေ တိုင်းရပ်ကွက်အမှတ်( ၆၂၄၊ ၆၂၇၊ ၆၃၂၊ ၆၃၅၊ )၊ ၇၇လမ်းနှင့်၇၈လမ်းကြား ၃၀လမ်း နှင့်၃၃လမ်း ကြား ၊ ချမ်းအေးသာစံမြို့နယ်၊မန္တလေးမြို့ရှိ(၁၂.၁၈၈၁) ဧက( ၄၉၃၂၃.၅၃စတုရန်း မီတာ)ကိုငှား ရမ်း၍ ဟိုတယ်၊ ပလာဇာ၊ရုံးခန်း ဈေး ဆိုင်ခန်း နှင့်ကွန်ဒိုမီနီယံ( Construction and Leasing of Hotel, Plaza,Office,Super Market & Condominium - )တည်ဆောက်ပြီးငှား ရမ်း ခြင်းလုပ်ငန်း ဆောင်ရွက်ရန်မန္တလေးမြို့စည်ပင်သာယာ ရေးကော်မတီနှင့် စီး တီး မင်းကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုခဲ့ကြသောတည် ဆောက်၊ လုပ်ကိုင် ဆောင်ရွက်ခြင်း ၊ သဘောတူစာချုပ်နှင့် မြေငှား ရမ်း ခြင်း သဘောတူစာချုပ်များ ပြင်ဆင်ရန်နှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ (၂၃-၁-၉၈) နေ့တွင်ကျင်း ပသော( ၂/၉၈)ကြိမ် မြောက်အစည်း အဝေး သို့တင်ပြခဲ့ရာအစည်း အဝေး မှသဘောတူ ကြောင်း ဆုံး ဖြတ်ခဲ့ပါသည်။

၂/-သို့

အထွေထွေအရပ်ရပ်-၁၆

(ရုံးတွင်းစာအကျဉ်းချုပ်သို့တည်း မဟုတ် စာကြမ်းရေးရန်အတွက်)



၂။ သို့ဖြစ်ပါ၍ စီးတီးမင်းကုမ္ပဏီလီမိတက် (City Man Co., Ltd .) သို့ မူလထုတ်ပေးထားသည့် ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၂၁/၉၆ ကိုပြင်ဆင်အစားထိုးထုတ်ပေးမည့် ခွင့်ပြုမိန့်တွင်လက်မှတ်ရေးထိုးနိုင်ပါရန်နှင့် ယင်းခွင့်ပြုမိန့်ထုတ်ပေးမည့်အမှာစာ (မူကြမ်း) ကိုသဘောတူအတည်ပြုပေးနိုင်ပါရန်ပြုစုတင်ပြအမိန့်နာခံအပ်ပါသည်။

[signature]

၆-၄-၉၀။

[initials] ၆/၄

အတွင်းရေးမှူး (ဝန်ကြီး)။

မူသစ်ပြုပြင်ရေးသားထားသော permit ကို [illegible]
[illegible] တင်ပြအပ်ပါသည်။

[initials] ၆/၄

ဥက္ကဋ္ဌ (ဒုတိယဝန်ကြီးချုပ်)။

[initials] ၆/၄

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ထွက်စာအမှတ် ၁၀၄၂
နေ့စွဲ ၆-၄-၉၈

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၀၂၁/၉၆    ၁၉၉၆ ခုနှစ်၊ မေ လ ၂၉ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၁ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးဘင်မောင်(ခ)လီစန်းဝှင်

(ခ) အဘအမည် ဦးအလယ်ဖာ

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၉/မဂမ(နိုင်)၀၅၈၀၈၄

(ဃ) နေရပ်လိပ်စာ အမှတ်(၂၈၇)၊ ၃၅လမ်း၊ ၈၇နှင့်၈၈လမ်းကြား ချမ်းအေးသာစံမြို့နယ်၊ မန္တလေးမြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း စီးတီးမင်း ကုမ္ပဏီလီမိတက် (City Man Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံပြုလုပ်မည့်လုပ်ငန်းအမျိုးအစား ဟိုတယ်၊ ပလာဇာ၊ ရုံးခန်း၊ ဈေးဆိုင်ခန်းနှင့် ကွန်ဒိုမီနီယမ်တိုက်ခန်းများ ဆောက်လုပ်ခြင်းနှင့် ငှားရမ်းခြင်းလုပ်ငန်း။
(Construction and Leasing of Hotel, Plaza, Office, Super Market & Condominium.)

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (မြေ)ကွက်အမှတ်၊ ဥပစာအမှတ်(၆၂၄၊၆၂၇၊၆၃၂၊ ၆၃၅) ၇၇လမ်းနှင့်၇၈လမ်းကြား၊ ၃၁လမ်းနှင့် ၃၂လမ်းကြား၊ ချမ်းအေးသာစံမြို့နယ်၊ မန္တလေးမြို့။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၁၀၂၅၄.၂၈ သိန်း
(ကျပ်တစ်သောင်းနှစ်ရာငါးဆယ့်လေးသိန်း၊ နှစ်သိန်း၊ ရှစ်သောင်းတိတိ)

ျန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု
ကော်မရှင်၏ ၂၃-၁-၉၈ နေ့တွင်
ျင်းပသော ၂/၉၈ကြိမ်မြောက်
ာစည်းအဝေး ဆုံးဖြတ်ချက်အရ ဤခွင့်
ုမိန့်ကိုပြင်ဆင်အစားထိုး ထုတ်ပေးသည်။

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
## အမိန့် ကြော်ငြာစာအမှတ်၊ ၂၄ /၉၀ (မနသ)
## ရန်ကုန်မြို့၊ ၁၃၅၉ ခုနှစ်၊ နှောင်းတန်ခူးလဆန်း ၁၀ ရက်။
## (၁၉၉၀ ခုနှစ်၊ ဧပြီလ ၆ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော စီးတီးမင်း ကုမ္ပဏီ လီမိတက် (City Man Co., Ltd.) သည် မန္တလေးမြို့ စည်ပင်သာယာရေး ကော်မတီပိုင် မြေတိုင်းရပ်ကွက်အမှတ် (၆၂၄၊ ၆၂၇၊ ၆၃၂၊ ၆၃၅) ၇၈ လမ်းနှင့် ၈၀လမ်းကြား ၃၀လမ်းနှင့်၃၃လမ်းကြား ချမ်းအေးသာစံမြို့နယ်၊ မန္တလေးမြို့ရှိ မြေ(၁၂.၁၈၈၁)ဧက (၄၉၃၂၂.၅၃ စတုရန်းမီတာ)ကို ငှားရမ်း၍ ဟိုတယ်၊ ပလာဇာ၊ ရုံးခန်း၊ စျေးဆိုင်ခန်းနှင့် ကွန်ဒိုမီနီယံ (Construction and Leasing of Hotel, Plaza, Office, Super Market & Condominium) တည်ဆောက်ပြီး ငှားရမ်းခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၁၉-၄-၉၆) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၆/၉၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘော တူညီခဲ့ပြီး အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက် နှင့် အညီ(၂-၅-၉၆) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၁၅/၉၆)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် စီးတီးမင်း ကုမ္ပဏီ လီမိတက် (City Man Co., Ltd.)အား လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၀၂၁/၉၆ ကို ၂၉-၅-၉၆ နေ့တွင် ထုတ်ပေးခဲ့ပါသည်။

၂။ မန္တလေးမြို့ စည်ပင်သာယာရေး ကော်မတီနှင့် စီးတီးမင်း ကုမ္ပဏီ လီမိတက် (City Man Co., Ltd.) တို့အကြား ချုပ်ဆိုခဲ့ကြသော တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်း သဘောတူစာချုပ်နှင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်များကို ပြင်ဆင်ရန်နှင့်ပတ်သက်၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၃-၁-၉၀)နေ့တွင် ကျင်းပသော (၂/၉၀)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ချက်နှင့်အညီ စီးတီးမင်း ကုမ္ပဏီ လီမိတက် (City Man Co., Ltd.) အား မူလထုတ်ပေးထားသည့် ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၂၁/၉၆ကို ပြင်ဆင် အစားထိုး ထုတ်ပေးလိုက်သည်။

၃။ စီးတီးမင်း ကုမ္ပဏီ လီမိတက် (City Man Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှု လုပ်ငန်း စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ ဆောက်တော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု

ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ဂ) အရ ဝန်ဆောင်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင် အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

ဂ ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင် အထည် ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံးမတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ် သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုး လျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထား ရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(စ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန် တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၁၃(စ)အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ - ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits) ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စနစ် (Buy-back System) ရွှေ့ဆိုင်း ငွေပေးချေမှု စနစ် (Deferred Payment System) စသည် တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၅။ စီးတီးမင်း ကုမ္ပဏီ လီမိတက် (City Man Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပချေးငွေ (Loan and Credits)

ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စနစ် (Buy-back System) ရွှေဆိုင်း ငွေပေးချေစနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး ပြန်လည် ပေးဆပ်သည့်အခါ အဆိုပြု လုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေ ဖြင့်သာ ပေးဆပ်ရမည်။

၆။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ နှင့် လုပ်ငန်းသုံး ပစ္စည်းများ ကို ပြည်ပချေးငွေ (Loan and Credits) ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စနစ် (Buy-back System) ရွှေဆိုင်း ငွေပေးချေစနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိပဲ ငွေချေးသူ၏ တာဝန်သာ ဖြစ်စေရမည်။

၇။ စီးတီးမင်း ကုမ္ပဏီ လီမိတက် (City Man Co., Ltd.) သည် ကုမ္ပဏီ စတင်တည်ထောင်သည့် နေ့ဖြစ်သော ၂၅-၂-၉၇ နေ့မှစ၍ (၄၈)လအတွင်း (၈)ထပ်ရှိသော ဟိုတယ်တစ်လုံး၊ (၅)ထပ်ရှိသော ပလာဇာ(၆)လုံး၊ (၄)ထပ်ရှိသော ပလာဇာ(၂)လုံး၊ (၄)ထပ် Super Market & Office (၂)လုံးနှင့် (၈)ထပ်ရှိသော Condominium (၂)လုံး အဆောက်အဦများကို အပြီးတည်ဆောက်ပြီး ဖွင့်လှစ်နိုင်ရမည်။ မဖွင့်လှစ်နိုင်ပါက (၄၈)လ ပြည့်သည့်နေ့မှစ၍ သတ်မှတ်ထားသည့် နှစ်စဉ် ငှါးရမ်းခများကို ပေးသွင်းရမည်။

၈။ စီးတီးမင်း ကုမ္ပဏီ လီမိတက် (City Man Co., Ltd.) သည် မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ်၃၆၂၂သိန်း(ကျပ်သိန်းပေါင်းသုံးထောင်ခြောက်ရာနှစ်ဆယ့်နှစ်တိတိ)ကို မန္တလေးမြို့ စည်ပင်သာယာရေး ကော်မတီသို့ မူလမြေငှါးရမ်းခြင်းစာချုပ် ချုပ်ဆိုပြီးနောက် ပေးသွင်းရမည်။

၉။ စီးတီးမင်း ကုမ္ပဏီ လီမိတက် (City Man Co., Ltd.) သည် မန္တလေးမြို့ စည်ပင်သာယာရေး ကော်မတီသို့ နှစ်စဉ်ငှါးရမ်းခအဖြစ် ဟိုတယ်လုပ်ငန်းအတွက် ကျပ်ငွေဖြင့် ရရှိသည့် စုစုပေါင်း ဝင်ငွေ၏ ၅ ရာခိုင်နှုန်း (သို့မဟုတ်) ကျပ်သိန်း၆၀ (ကျပ်သိန်းခြောက်ဆယ်တိတိ)တို့အနက် များရာကို လည်းကောင်း၊ နိုင်ငံခြားငွေဖြင့် ရရှိသည့်စုစုပေါင်း ဝင်ငွေ၏ ၅ ရာခိုင်နှုန်းကိုလည်းကောင်း ပေးချေရမည်။

၁၀။ ပလာဇာ၊ စူပါမားကက်၊ ရုံးခန်းနှင့် ကွန်ဒိုမီနီယံ လုပ်ငန်းများအတွက် နှစ်စဉ်ငှါးရမ်းခအဖြစ် ငှါးရမ်းနိုင်သော ဧရိယာအပေါ် တစ်စတုရန်းမီတာလျှင် မြန်မာကျပ်ငွေဖြင့် ကျပ်၆၀၀ (ကျပ်ခြောက်ရာတိတိ) နှုန်းဖြင့်လည်းကောင်း၊ နိုင်ငံခြားငွေဖြင့် ငှါးရမ်းပါက အမေရိကန်ဒေါ်လာ ၆ ဒေါ်လာနှုန်း (အမေရိကန်ဒေါ်လာ ခြောက်ဒေါ်လာတိတိ)ဖြင့် လည်းကောင်း ပေးချေရမည်။ ငှါးရမ်းခများကို ၅ နှစ် တစ်ကြိမ် ၁၅ ရာခိုင်နှုန်း ထက်မပိုစေဘဲ နှစ်ဦးနှစ်ဘက် ညှိနှိုင်းပြင်ဆင်သတ်မှတ်ရမည်။

၁၁။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေအငှါးချထားသူ မန္တလေးမြို့ စည်ပင်သာယာရေး ကော်မတီနှင့် အငှါးချထားခြင်း ခံရသူ စီးတီးမင်း ကုမ္ပဏီ လီမိတက် (City Man Co., Ltd.) တို့ ချုပ်ဆိုမည့် တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်း သဘောတူစာချုပ်နှင့် မြေငှါးရမ်းခြင်း သဘောတူစာချုပ်များ ယင်းစာချုပ်များကို ပြင်ဆင်သည့် သဘောတူစာချုပ်များ လက်မှတ်ရေးထိုးပြီးသည့်အခါ တစ်ချပ် မိတ္တူ (၄) စောင်စီကို ဤ ကော်မရှင်သို့ မပျက်မကွက် တင်ပြရမည်။

၁၂။ မြေငှါးရမ်းခြင်း၏ သက်တမ်းမှာ မြေငှါးရမ်းခြင်း သဘောတူစာချုပ် စတင်အကျိုးသက်ရောက်သည့် နေ့မှစ၍ ကနဦး (၃၀)နှစ် ဖြစ်ပြီး ထိုသက်တမ်း ကုန်ဆုံးပါက နောက်ထပ် (၅)နှစ် (၃)ကြိမ်ဆက်လက် တိုးမြှင့် ငှါးရမ်းနိုင်ရေးအတွက် အငှါးချထားသူနှင့် အငှါးချထားခြင်းခံရသူတို့၏ နှစ်ဦးနှစ်ဘက် ညှိနှိုင်းသဘောတူညီမှုအရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက် ရယူရမည်။

၁၃။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၄။ စီးတီးမင်း ကုမ္ပဏီ လီမိတက် (City Man Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။

၁၅။ အဆိုပြု လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး မပျက်မကွက် အစီရင်ခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၇။ ဤအမိန့် ကြော်ငြာစာဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၉၉၆ ခုနှစ် မေလ ၂၉ရက် နေ့စွဲပါ အမိန့်ကြော်ငြာစာ အမှတ် ၁၂/၉၆ ကို ရုပ်သိမ်းလိုက်သည်။

အမိန့်အရ -

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

တအမှတ်၊ ရကာ-၁/မ-၀၅၃/၉၈( ၀၀ ... )
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ ဧပြီလ ၆ ရက်။

ဖြန့်ဝေခြင်း:-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ ရုံး။
၄။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၅။ အလုပ်သမား ဝန်ကြီးဌာန။
၆။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၇။ ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန။
၈။ ဆက်သွယ်ရေး စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၉။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၀။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၁။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၂။ မန္တလေးမြို့ စည်ပင်သာယာရေး ကော်မတီ။
၁၃။ ဉာဏ္ဍ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၄။ ဉာဏ္ဍ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း တရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့် ခရီးသွား ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၅။ ဉာဏ္ဍ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၆။ မန်နေဂျင်း ဒါရိုက်တာ၊ စီးတီးမင်း ကုမ္ပဏီ လီမိတက် (City Man Co., Ltd.)။

အ မိန့် အ ရ -

( မောင်မောင်ရို )
တွဲဖက်အတွင်းရေးမှူး။

# မန္တလေးမြို့စည်ပင်သာယာရေးကော်မတီနှင့်
# စီးတီးမင်းကုမ္ပဏီလီမိတက်
# တို့အကြားချုပ်ဆိုသော
# တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်းသဘောတူစာချုပ်

မာတိကာ

## မန္တလေးမြို့စည်ပင်သာယာရေးကော်မတီနှင့်
## စီးတီးမင်းကုမ္ပဏီလီမိတက် တို့အကြားချုပ်ဆိုသော
## တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်းသဘောတူစာချုပ်

စာချုပ်ချုပ်ဆိုသူများ

ပြည်ထောင်စု မြန်မာနိုင်ငံတော်၊ ............................. မြို့၌ တစ်ထောင့်ကိုးရာ ကိုးဆယ့် ..............
ခုနှစ်၊ ............................လ ........................ရက်တွင်

ပြည်ထောင်စု မြန်မာနိုင်ငံတော်၊ ဝန်ကြီးချုပ်ရုံးလက်အောက်ရှိ

မန္တလေးမြို့၊ စည်ပင်သာယာရေးကော်မတီ

(နောင်တွင် အခြားကွဲပြားသော အဓိပ္ပါယ်ဖော်ပြချက်မရှိလျှင် **"မန်းစည်ပင်"** ဟု ရည်ညွှန်းမည် ဖြစ်ပြီး ယင်းစကားရပ်တွင် ယင်း၏ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ခွင့်ပြုပြီးလွှဲအပ်ခံသူများ လည်း အကျုံးဝင်သည်ဟု မှတ်ယူရမည်ကို ဤကိစ္စအလို့ငှါ ကိုယ်စားပြုသူ "မန်းစည်ပင်" ၏ဥက္ကဋ္ဌ ဦး ------------- က တစ်ဖက်

နှင့်

အခြားတစ်ဖက်တွင်

အမှတ် (၄၀၂)၊ ကန္နားလမ်း၊ ကြည့်မြင်တိုင်မြို့နယ်၊ ရန်ကုန်မြို့တွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းထားသော စီးတီးမင်းကုမ္ပဏီလီမိတက် (နောင်တွင်အခြားကွဲပြားသော အဓိပ္ပါယ် ဖော်ပြချက်မရှိလျှင် **"စီးတီးမင်း"** ဟုရည်ညွှန်းမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ယင်း၏ ဆက်ခံသူများ၊ တရားဝင် ကိုယ်စားလှယ်များ၊ ခွင့်ပြုပြီးလွှဲအပ်ခံရသူများ၊ အမွေဆက်ခံသူများလည်း အကျုံးဝင်သည်ဟု မှတ်ယူရမည်ကို ဤကိစ္စရပ်အလို့ငှာ၊ ကိုယ်စားပြုသူ စီးတီးမင်းကုမ္ပဏီလီမိတက် ၏ဒါရိုက်တာ ဦးမြင့်ဝင်း (အမျိုးသား မှတ်ပုံတင်အမှတ် အေအေ-၀၀၆၉၃၁) နှင့်အဖွဲ့တို့က ဤစာချုပ်ကို ရေးသားပါဝင်လျက် လက်မှတ်ရေးထိုးပြီး ချုပ်ဆိုကြပါသည်၊

### အပိုဒ် ၁။ စာချုပ်၏အပိုင်းအခြား

၁-၀၁ **"မန်းစည်ပင်"** သည် ၄င်းပိုင်ဆိုင်သော မန္တလေးမြို့၊ ချမ်းအေးသာစံမြို့နယ်၊ ရရလမ်းနှင့် ရဂလမ်း၊ ၃၁လမ်းနှင့် ၃၄လမ်းအကြားရှိ မီးရထားအိမ်ယာတွင် မြေငှါးရမ်း၍ အဆောက်အဦးများ ဆောက်လုပ်နိုင်ရန်အတွက် မြေကွက်အကျယ်အဝန်း (၁၅.၄)ဧက ကို နောက်ဆက်တွဲ( က ) ပါ အတည်ပြုပြီး မြေပုံပေါ်တွင်ဖော်ပြထားသည့်အတိုင်း နှစ်ပေါင်း (၃၀)ငှါးရမ်းရန်ဖြစ်ပါသည်၊ နှစ်(၃၀) ကာလ ကုန်ဆုံးပြီးနောက် နှစ်ဖက်သဘောတူညီလျှင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ထောက်ခံချက်ဖြင့် အစိုးရအဖွဲ့က ခွင့်ပြုပါက ထပ်တိုး(၅)နှစ်ကာလ (၃)ကြိမ် ငှါးရမ်းမည်။

၁-၀၂ **"စီးတီးမင်း"** သည်အဆိုပါမြေပေါ်တွင် တည်ဆောက်မှုလုပ်ငန်းများကိုအောက်ပါ အတိုင်း ဆောက်လုပ်မည်။

# မန္တလေးမြို့စည်ပင်သာယာရေးကော်မတီနှင့် စီးတီးမင်းကုမ္ပဏီလီမိတက် တို့အကြားချုပ်ဆိုသော တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်းသဘောတူစာချုပ်

စာချုပ်ချုပ်ဆိုသူများ

ပြည်ထောင်စု မြန်မာနိုင်ငံတော်၊ ......မန္တလေး...... မြို့၌ တစ်ထောင့်ကိုးရာ ကိုးဆယ့် ...ခြောက်... ခုနှစ်၊ ...အောက်တိုဘာ... လ ......၂၀...... ရက်တွင်

ပြည်ထောင်စု မြန်မာနိုင်ငံတော်၊ ဝန်ကြီးချုပ်ရုံးလက်အောက်ရှိ
မန္တလေးမြို့၊ စည်ပင်သာယာရေးကော်မတီ

(နောင်တွင် အခြားကွဲပြားသော အဓိပ္ပါယ်ဖော်ပြချက်မရှိလျှင် **"မန်းစည်ပင်"** ဟု ရည်ညွှန်းမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ယင်း၏ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ခွင့်ပြုပြီးလွှဲအပ်ခံသူများလည်း အကျုံးဝင်သည်ဟု မှတ်ယူရမည်ကို ဤကိစ္စအလို့ငှါ ကိုယ်စားပြုသူ "မန်းစည်ပင်" ၏ဥက္ကဋ္ဌ ဦး ------------ က တစ်ဖက်

နှင့်

အခြားတစ်ဖက်တွင်

အမှတ် (၄၀၂)၊ ကန်နားလမ်း၊ ကြည့်မြင်တိုင်မြို့နယ်၊ ရန်ကုန်မြို့တွင် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထားသော စီးတီးမင်းကုမ္ပဏီလီမိတက် (နောင်တွင်အခြားကွဲပြားသော အဓိပ္ပါယ် ဖော်ပြချက်မရှိလျှင် **"စီးတီးမင်း"** ဟုရည်ညွှန်းမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ယင်း၏ ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ခွင့်ပြုပြီးလွှဲအပ်ခံရသူများ၊ အမွေဆက်ခံသူများလည်း အကျုံးဝင်သည်ဟု မှတ်ယူရမည်ကို ဤကိစ္စရပ်အလို့ငှာ၊ ကိုယ်စားပြုသူ စီးတီးမင်းကုမ္ပဏီလီမိတက် ၏ဒါရိုက်တာ ဦးမြင့်ဝင်း (အမျိုးသားမှတ်ပုံတင်အမှတ် အေအေ-၀၀၆၉၃၁) နှင့်အဖွဲ့တို့က ဤစာချုပ်ကို ရေးသားပါဝင်လျက် လက်မှတ်ရေးထိုးပြီး ချုပ်ဆိုကြပါသည်၊

## အပိုဒ် ၁။ စာချုပ်၏အပိုင်းအခြား

၁-၀၁ **"မန်းစည်ပင်"** သည် ၄င်းပိုင်ဆိုင်သော မန္တလေးမြို့၊ ချမ်းအေးသာစံမြို့နယ်၊ ရရလမ်းနှင့် ရဂလမ်း၊ ၃၁လမ်းနှင့် ၃၄လမ်းအကြားရှိ မီးရထားဧရိယာတွင် မြေငှါးရမ်း၍ အဆောက်အဦးများ ဆောက်လုပ်နိုင်ရန်အတွက် မြေကွက်အကျယ်အဝန်း (၁၅.၄)ဧက ကို နောက်ဆက်တွဲ( က ) ပါ အတည်ပြုပြီး မြေပုံပေါ်တွင်ဖော်ပြထားသည့်အတိုင်း နှစ်ပေါင်း (၃၀)ငှါးရမ်းရန်ဖြစ်ပါသည်၊ နှစ်(၃၀) ကာလ ကုန်ဆုံးပြီးနောက် နှစ်ဖက်သဘောတူညီလျှင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ထောက်ခံချက်ဖြင့် အစိုးရအဖွဲ့က ခွင့်ပြုပါက ထပ်တိုး(၅)နှစ်ကာလ (၃)ကြိမ် ငှါးရမ်းမည်။

၁-၀၂ **"စီးတီးမင်း"** သည်အဆိုပါမြေပေါ်တွင် တည်ဆောက်မှုလုပ်ငန်းများကိုအောက်ပါ အတိုင်း ဆောက်လုပ်မည်။

(က) ဟိုတယ်တည်ဆောက်မှုလုပ်ငန်းတွင် ကျပ်သိန်းပေါင်း ၁၅၀၀(ကျပ်သိန်းတစ်ထောင်ငါးရာတိတိ) နှင့် US$ ၁၅ သန်း(ဒေါ်လာ တစ်ဆယ်ငါးသန်းတိတိ)ဖြင့် သော်လည်းကောင်း၊

(ခ) Plaza တည်ဆောက်မှုလုပ်ငန်းတွင် ကျပ်သိန်းပေါင်း ၁၂၅၀ (ကျပ်သိန်းတစ်ထောင်နှစ်ရာငါးဆယ်တိတိ) နှင့် US$ ၁၂.၅ သန်း(ဒေါ်လာတစ်ဆယ်နှစ်သန်းငါးသိန်းတိတိ)

(ဂ) Shopping Centre & Condominium တည်ဆောက်မှုလုပ်ငန်းတွင် ကျပ်သိန်းပေါင်း ၁၂၅၀ (ကျပ်သိန်းတစ်ထောင်နှစ်ရာငါးဆယ်တိတိ) နှင့် US$ ၁၂.၅ သန်း (ဒေါ်လာတစ်ဆယ်နှစ်သန်းငါးသိန်းတိတိ ) ဖြင့်သော်လည်းကောင်း၊

(ဃ) Offices & Apartments တည်ဆောက်မှုလုပ်ငန်းတွင် ကျပ်သိန်းပေါင်း ၁၀၀၀ (ကျပ်သိန်းတစ်ထောင်တိတိ ) နှင့် US$ ၁၀ သန်း( ဒေါ်လာတစ်ဆယ်သန်းတိတိ ) ဖြင့်သော်လည်းကောင်း၊ တည်ဆောက်သွားမည်ဖြစ်၍ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏ ကျပ်သိန်း ပေါင်း ၅၀၀၀ (ကျပ်သိန်းငါးထောင်တိတိ) နှင့် US$ ၅၀ သန်း (ဒေါ်လာငါးဆယ်သန်းတိတိ) ကို အကန့်အကျဉ်း လျာထားတည်ဆောက်သွားမည်ဖြစ်ပါသည်။

၁-၀၃ **"မန်းစည်ပင်"** နှင့် **"စီးတီးမင်း"** တို့သည် **"စီးတီးမင်း"** ကအဆိုပါ မြေကွက်နှင့်တကွ ဟိုတယ်နှင့် Plaza, Shopping Centre & Condominium, Offices & Apartments အဆောက်အဦးတို့ကို နှစ်ပေါင်း(၃၀)တိုင်တိုင် လုပ်ကိုင်ဆောင်ရွက်ပြီးနောက် ဤကာလ ကုန်ဆုံးသည့်အခါတွင် ယင်းအဆောက်အဦးများနှင့် ယင်းတို့နှင့် ဆက်နွယ်သည့်ပစ္စည်းများ အားလုံးကို ပုံမှန်အသုံးပြုရန် ကောင်းမွန်စွာ ထိန်းသိမ်းထားရှိသည့်အခြေအနေအတိုင်း အဖိုးအခ တစ်စုံတစ်ရာမပါရှိဘဲ **"မန်းစည်ပင်"** ကို လွှဲပြောင်းပေးရန် သဘောတူကြသည်။

၁-၀၄ **"စီးတီးမင်း"** မှတည်ဆောက်သည့်အဆောက်အဦးများသည် **"မန်းစည်ပင်"** ၏အတည်ပြုချက်ရရှိပြီးသောပုံစံအတိုင်းဖြစ်ရပါမည်။ ယင်းအဆောက်အဦးများတွင် (၁၆)ထပ်ရှိသော ဟိုတယ်၊ (၅)ထပ်ရှိသော Plaza ၊ (၈)ထပ်ရှိသော Shopping Centre & Condominium နှင့် (၉)ထပ်ရှိသော Offices & Apartments အဆောက်အဦးများပါဝင်မည်ဖြစ်သည်။ ၎င်းပုံစံများကိုနောက်ဆက်တွဲ(ခ)တွင် ဖော်ပြထားရှိပါသည်။

အပိုဒ် ၂ ငှားရမ်းခနှင့် ပေးချေမှုစည်းကမ်းသတ်မှတ်ချက်

၂-၀၁ **"စီးတီးမင်း"** က **"မန်းစည်ပင်"** သို့ ဟိုတယ်လုပ်ငန်းအတွက် ပေးချေရမည့် နှစ်စဉ်ငှားရမ်းခမှာ ကျပ်ငွေဖြင့်ရရှိသည့်စုစုပေါင်းဝင်ငွေ (gross income in kyats ) ၏ ၅% (ငါးရာခိုင်နှုန်း) နှင့် ညီမျှသောကျပ်ငွေ (သို့မဟုတ်) ကျပ်သိန်း ၁၅၀ (ကျပ်သိန်းတစ်ရာငါးဆယ်တိတိ)တို့အနက် များရာကို ပေးရမည့်အပြင်၊ အမေရိကန်ဒေါ်လာဖြင့် ရရှိသည့် စုစုပေါင်းဝင်ငွေ (gross income in US dollars ) ၏ ၅%(ငါးရာခိုင်နှုန်း)ကိုလည်း ပေးရမည်။

၂-၀၂ **"စီးတီးမင်း"** က **"မန်းစည်ပင်"** သို့ ကျန်လုပ်ငန်းများဖြစ်သည့် ပလာဇာ (Plaza )၊ ရုံးခန်းနှင့်လူနေအိမ်ခန်း (Offices & Apartments)၊ ဈေးဆိုင်ခန်းနှင့်အရောင်းပြခန်းများ (Shopping Centre and Condominium ) လုပ်ငန်းများအတွက် ပေးချေရမည့် နှစ်စဉ်ငှားရမ်းခမှာ ငှားရမ်းနိုင်သောဧရိယာ ( Net Rentable Area ) ၏ တစ်စတုရန်းမီတာလျှင် မြန်မာကျပ်ငွေဖြင့်ငှားရမ်းပါက ကျပ် ၆၀၀/-( ကျပ်ခြောက်ရာတိတိ ) နှုန်းဖြင့်လည်းကောင်း၊ အမေရိကန်ဒေါ်လာငွေဖြင့်ငှားရမ်းပါက ၆ ဒေါ်လာ ( ခြောက်ဒေါ်လာတိတိ ) နှုန်းဖြင့်လည်းကောင်း ပေးချေရမည်။

၂-၀၃ အဆိုပါ ပလာဇာ (Plaza )၊ ရုံးခန်း နှင့်လူနေအိမ်ခန်း (Offices & Apartments)၊ ဈေးဆိုင်ခန်းနှင့်အရောင်းပြခန်းများ (Shopping Centre and Condominium ) လုပ်ငန်းများအတွက် အကယ်၍ ငှားရမ်းရရှိခြင်းမရှိသောကြောင့် အရှုံးပေါ်ပေါက်ခဲ့ပါက နိုင်ငံတော်မှ တာဝန်ပေးသည့် စာရင်းစစ်အဖွဲ့ဖြင့် စစ်ဆေးပြီး၊ အဆိုပါစာရင်းစစ်အစီရင်ခံစာအရ အရှုံးပေါ်ပေါက်ကြောင်းမှန်ကန်သည်ဟု တွေ့ရှိရပါက အဆိုပါစာရင်းစစ်ဆေးသောကာလအတွက် ငှားရမ်းခပေးချေခြင်းမှ ကင်းလွတ်ခွင့်ပြုရန်ဖြစ်သည်။ အရှုံးပေါ်ပေါက်ခြင်းမရှိပါက အထက်ပါအပိုဒ် ၂-၀၂ တွင် သတ်မှတ်ချက်အတိုင်း ပေးချေရမည်။

၂-၀၄ **"စီးတီးမင်း"** သည် စာချုပ်ချုပ်ဆိုပြီး လက်ရှိအဆောက်အဦးဟောင်းများ ရွှေ့ပြောင်းပေးပြီးသည့်နေ့မှစ၍ (၄၈)လအတွင်း (၁၆)ထပ်ရှိသော ဟိုတယ်၊ (၅)ထပ်ရှိသော Plaza ၊ (၈)ထပ်ရှိသော Shopping Centre & Condominium နှင့် (၉)ထပ်ရှိသော Offices & Apartments အဆောက်အဦးများကို အပြီးအစီးတည်ဆောက်ပြီး ဖွင့်လှစ်နိုင်ရမည်။ အကယ်၍ မဖွင့်လှစ်နိုင်ပါက ဖွင့်လှစ်နိုင်ဘိသကဲ့သို့ (၄၈)လပြည့်သည့်နေ့မှစ၍ သတ်မှတ်သည့်နှစ်စဉ်ငှါးရမ်းခငွေဖြစ်သော ဟိုတယ်လုပ်ငန်းအတွက် ကျပ်သိန်း ၁၅၀ ( ကျပ်သိန်းတစ်ရာငါးဆယ်တိတိ ) နှုန်းထားအတိုင်း ပေးချေရမည်။ ပလာဇာ (Plaza )၊ ရုံးခန်း နှင့်လူနေအိမ်ခန်း (Offices & Apartments)၊ ဈေးဆိုင်ခန်းနှင့်အရောင်းပြခန်းများ (Shopping Centre and Condominium ) လုပ်ငန်းများအတွက်လည်း နှစ်စဉ်ငှားရမ်းခဖြစ်သော ငှားရမ်းနိုင်သောဧရိယာ ( Net Rentable Area ) ၏ တစ်စတုရန်းမီတာလျှင် မြန်မာကျပ်ငွေဖြင့်ငှားရမ်းပါက ကျပ် ၆၀၀/- (ကျပ်ခြောက်ရာတိတိ ) နှုန်းဖြင့်လည်းကောင်း၊ အမေရိကန်ဒေါ်လာငွေဖြင့်ငှားရမ်းပါက အမေရိကန်ဒေါ်လာ ၆ ( ခြောက်ဒေါ်လာတိတိ ) ကို လည်းကောင်း ပေးသွင်းရမည်။

၂-၀၅ အထက်ပါအပိုဒ် ၂-၀၁ တွင်ပါရှိသော စုစုပေါင်းဝင်ငွေ ( Gross Income ) ဆိုသည်မှာ-

(က) အခန်းများငှားရမ်း၍ ရရှိသည့်ဝင်ငွေများ၊

(ခ) ခန်းမကြီးနှင့်အခြားဟိုတယ်လုပ်ငန်းများမှရရှိသည့်ဝင်ငွေများ၊

(ဂ) စားသောက်ဆိုင်နှင့် အဖျော်ယမကာလုပ်ငန်းများမှ ရောင်းရသည့်ဝင်ငွေများ၊

(ဃ) ဝန်ဆောင်မှုလုပ်ငန်းအားလုံးမှရရှိသည့်ဝင်ငွေများ၊

(င) ဧည့်သည်များမှ ရရှိသော ပြန်ပေးရန်မလိုသည့်စဘော်ငွေများ၊

(စ) ဟိုတယ်လုပ်ငန်းဆောင်ရွက်ခြင်းအတွက်ရရှိသည့် အခြားဝင်ငွေများ၊

အဆိုပါတွက်ချက်မှုတွင် အောက်ပါအချက်များပါဝင်ခြင်းမရှိပါ။

(က) ကုန်သွယ်လုပ်ငန်းခွန်၊

(ခ) ဧည့်သည်များသို့ပြန်အမ်းရမည့်ငွေများကို စုစုပေါင်းဝင်ငွေတွင် ထည့်သွင်းတွက်ချက်ပြီးပါက နှုတ်ပယ်ရန်၊

(ဂ) စာရင်းကာလနှင့်မသက်ဆိုင်သည့်ကြိုတင်ရရှိသောဝင်ငွေများ၊

၂-၀၆ **"စီးတီးမင်း"** သည် အပိုဒ် ၂-၀၁ နှင့် ၂-၀၂ ပါ ငှါးရမ်းခများကို **"မန်းစည်ပင်"** သို့ ပေးချေနိုင်ရန်စာရင်းများကို နှစ်စဉ်ဘဏ္ဍာရေးနှစ်ကုန်ဆုံးပြီးနောက် (၃)လအတွင်းရေးဆွဲ၍ နိုင်ငံတော်စာရင်းစစ်ဆေးရေးအဖွဲ့မှ စစ်ဆေးပြီးနောက် **"မန်းစည်ပင်"** အား အတည်ပြုအကြောင်းကြားရမည်။ **"မန်းစည်ပင်"** မှလည်း စစ်ဆေးပြီးစာရင်းများကို **"စီးတီးမင်း"** သို့ အကြောင်းကြားပေးပို့ရမည်။ နှစ်စဉ်ငှားရမ်းခကိုနှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ (၅)နှစ် တစ်ကြိမ် ပြင်ဆင်သတ်မှတ်ခွင့်ရှိသည်၊ သို့ရာတွင် ယင်းသို့ နှစ်စဉ်သတ်မှတ်သည့် ငှားရမ်းခသည် မည်သည့်အခါ တွင်မျှ နောက်ဆုံးပြင်ဆင် သတ်မှတ်ထားသည့် ငှားရမ်းခ၏ ၁၅% (တစ်ဆယ့်ငါးရာခိုင်နှုန်း) ထက်ပို၍ တိုးမြှင့်တောင်းခံခြင်းမပြုရ။

၂-၀၇ **"စီးတီးမင်း"** သည် အထက်အပိုဒ် ၂-၀၁ နှင့် ၂-၀၂ ပါ အတိုင်း ပေးဆောင်ရန်ရှိသော ငှါးရမ်းခများကို ရက်ပေါင်း ၃၀ (သုံးဆယ်) အတွင်း **"မန်းစည်ပင်"** သို့ ပေးချေရမည်။

၂-၀၈ **"စီးတီးမင်း"** သည် **"မန်းစည်ပင်"** သို့ မြေအသုံးချခွင့် ( Land use premium ) အဖြစ် ကျပ်သိန်း ၄၆၀၀ (ကျပ်သိန်းလေးထောင့်ခြောက်ရာ ) ကို မြေငှါးရမ်းခြင်းသဘောတူစာချုပ်ချုပ်ပြီးနောက် ယင်းစာချုပ်ပါအတိုင်း စာချုပ်ချုပ်ဆိုသည့်နေ့တွင် တစ်ဝက်ဖြစ်သော ကျပ်သိန်း ၂၃၀၀ ( ကျပ်သိန်းနှစ်ထောင့်သုံးရာ )ကိုလည်းကောင်း၊ စာချုပ်ချုပ်ဆိုသည့်နေ့မှ ၆ လ သို့မဟုတ် ၈ လ အတွင်း ကျန်တစ်ဝက်ဖြစ်သော ကျပ်သိန်း ၂၃၀၀ (ကျပ်သိန်းနှစ်ထောင့်သုံးရာ ) ကိုလည်းကောင်း ပေးဆောင်ရမည်။

၂-၀၉ အထက် အပိုဒ် ၂-၀၄ ပါ အဆောက်အဦးများသည် စာချုပ်ချုပ်ဆိုပြီး လက်ရှိ အဆောက်အဦးဟောင်းများ ရွှေ့ပြောင်းပြီးနောက် (၄၈)လအတွင်း ပြီးစီးရပါမည်။ အကယ်၍ ၄င်းကောက်စော၍ အဆောက်အဦး တစ်ခုခုမှပြီးစီး၍ ဖွင့်လှစ်နိုင်ခဲ့ပါက ၄င်းတရားဝင်ဖွင့်လှစ်နိုင်သည့်နေ့မှစ၍ ငှါးရမ်းကာလ (၃၀)နှစ် စတင်ရေတွက်သွားမည်ဖြစ်ပါသည်။

အပိုဒ် ၃ **"စီးတီးမင်း"** ၏ တာဝန်ဝတ္တရားများ

၃-၀၁ **"စီးတီးမင်း"** သည် ဟိုတယ်နှင့်ဝင်းအတွင်းရှိ သီးခြားအဆောက်အဦးများကို ပြင်ဆင်မွမ်းမံခြင်း၊ ခြယ်သခြင်းများနှင့် ဆက်စပ်လျှက်ရှိသော အထောက်အကူပြု ဆောက်လုပ်တပ်ဆင်ခြင်းတို့ကို ၁၀၀ (တစ်ရာ) ရာခိုင်နှုန်းပြည့် ရင်းနှီးမြှုပ်နှံရမည်။ ၄င်းလုပ်ငန်းများကို စာချုပ်လက်မှတ်ရေးထိုးပြီး၍ အဆောက်အဦးဟောင်းများရွှေ့ပြောင်းပြီးနောက် (၄၈)လ အတွင်းအပြီးတည်ဆောက်ရမည်။

၃-၀၂ မြေငှါးရမ်းကာလ ၃၀ (သုံးဆယ်)နှစ် ကုန်ဆုံးသောအခါ သို့မဟုတ် ထပ်မံငှါးရမ်း သည့်ကာလကုန်ဆုံးသည့်အခါတွင် ဟိုတယ် Plaza, Shopping Centre & Condominium, Offices & Apartments များနှင့် အခြားဆောက်လုပ်မှုများကို ယင်းတို့နှင့်ဆက်စပ်ပတ်သက်လျှက်ရှိသော ပစ္စည်းအားလုံးနှင့်တကွ **"မန်းစည်ပင်"** သို့ မည်သည့်အဖိုးစား နားမျှမယူဘဲ ကောင်းမွန်စွာ ပြုပြင် ထိန်းသိမ်းထားရှိသည့် အခြေအနေအတိုင်း လွှဲပြောင်းပေးရမည်။

၃-၀၃ **"စီးတီးမင်း"** သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရလျှင်ရခြင်း လုပ်ငန်းများ စတင်လုပ်ဆောင်ရမည်။

၃-၀၄ **"စီးတီးမင်း"** သည်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၂ (စ)အရ၊ မြန်မာနိုင်ငံသားပိုင်လုပ်ငန်းဖြစ်ပြီး အဆိုပါဥပဒေ ပုဒ်မ ၂(ဆ)အရ ရင်းနှီးမြှုပ်နှံမှုပြုလျှက် ပုဒ်မ ၃(က)(စ)(ဆ)(ဇ)(ဈ)(ည) ပါ ရည်ရွယ်ချက်များအောင်မြင်စေရန် တတ်စွမ်းသမျှ အစွမ်းကုန်ကြိုးပမ်းရမည်။

၃-၀၅ **"စီးတီးမင်း"** အနေဖြင့် ဤစာချုပ်ပါ ရင်းနှီးမြှုပ်နှံမှုနှင့် စီးပွားရေးလုပ်ဆောင်မှုများ အားလုံးသည် ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများနှင့် ယင်းတို့ကို အခါအားလျော်စွာ ပြင်ဆင်ချက် ဥပဒေများနှင့်အညီ ဖြစ်စေရန် တာဝန်ယူပါသည်။

၃-၀၆ **"စီးတီးမင်း"** သည် **"မန်းစည်ပင်"** သို့မဟုတ် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ အစိုးရအဖွဲ့အစည်းများသို့ ဤစာချုပ်အရ အကျိုးဝင်သော လုပ်ဆောင်မှုများနှင့် ပတ်သက်သည့် သတင်းအချက်အလက်များကို အကြောင်းအားလျော်စွာ တောင်းခံလာတိုင်း ပြုစုတင်ပြရမည်။

၃-၀၇ **"စီးတီးမင်း"** သည် **"မန်းစည်ပင်"** ၏စာဖြင့် သဘောတူညီမှု မရရှိဘဲ ဟိုတယ်၊ Plaza, Shopping Centre & Condominium, Offices & Apartments နှင့် အခြား လုပ်ငန်း အဆောက်အဦးနှင့် အခြားပါဝင်သော တည်ဆောက်တပ်ဆင်ထားသည့် ပစ္စည်းများ အပါအဝင် အားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း၊ ပေါင်နှံရန်၊ ရောင်းရန်၊ လွှဲပြောင်းရန်၊ တစ်နည်းနည်းဖြင့်လွှဲရန်၊ လုပ်ပိုင်ခွင့်မရှိစေရ။ ထို့ပြင် တည်ဆောက်ခြင်း လုပ်ကိုင်ဆောင်ရွက်ခြင်း၊ စီမံခန့်ခွဲခြင်း၊ အခွင့်အရေးပိုင်ခွင့်နှင့် ဤစာချုပ်အရ ဖြစ်ထွန်းသည့် အကျိုးကျေးဇူးခံစားခွင့်များကို **"စီးတီးမင်း"** သည် မိမိနှင့်ဆက်နွှယ်သူများ သို့မဟုတ် မည်သည့် ပုဂ္ဂိုလ်အဖွဲ့အစည်းများအားမဆို၊ **"မန်းစည်ပင်"** ၏ စာဖြင့်သဘောတူမှုမရှိဘဲ ဖြန့်ဝေလုပ်ကိုင် ခံစားစေခြင်းမပြုရ။

၃-၀၈ **"စီးတီးမင်း"** သည် အထက်အပိုဒ် ၂ တွင်သတ်မှတ်ခဲ့သော နည်းလမ်းအတိုင်းမြေငှါးရမ်းခကို ပေးချေ ရမည်။

၃-၀၉ **"စီးတီးမင်း"** သည် အငှါးချထားသောမြေနှင့်တကွ ဟိုတယ်နှင့် Plaza, Shopping Centre & Condominium, Offices & Apartments နှင့် အခြားအဆောက်အဦး များနှင့် အခြား ပစ္စည်းများ၌ ပြုလုပ်သောလုပ်ဆောင်မှု၊ လုပ်ရှားဆောင်ရွက်ချက်များ အားလုံးသည် ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းကမ်း ဥပဒေ၊ အမိန့်ညွှန်ကြားချက်များနှင့်အညီ ဖြစ်ကြောင်း၊ အာမခံရမည်။

၃-၁၀ **"စီးတီးမင်း"** သည် ငွေစာရင်းများကို မှန်ကန်စွာထားရှိရမည်။ စာရင်းများကိုလည်း နှစ်စဉ်ပုံမှန် မန်းစည်ပင်ဌာနတွင်း စစ်ဆေးရေးဌာနခွဲ၏ စာရင်းစစ်များနှင့် စစ်ဆေးစေရမည်။

၃-၁၁ **မြေခွန်ဌာန** မှကောက်ခံသောမြေခွန်မှအပ အခြားသက်ဆိုင်သော အခွန်အခများကို **"စီးတီးမင်း"** က ပေးချေရမည်။

၃-၁၂ **"စီးတီးမင်း"** သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် မြန်မာအာမခံဥပဒေတို့နှင့် အညီ မြန်မာအာမခံလုပ်ငန်းတွင် ပြဋ္ဌာန်းချက်များအတိုင်း အာမခံထားရှိရမည်။

၃-၁၃ **"စီးတီးမင်း"**သည်ရေဆိုးများသန့်စင်စေရန်စီမံခြင်း၊ ရေလွှတ်စနစ်ထားရှိခြင်းတို့ကို ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်းနှင့် ဥပဒေများအရ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၃-၁၄ တည်ဆောက်မှုလုပ်ငန်းများ တိုးချဲ့ဆောင်ရွက်ရန် လိုအပ်လျှင်သော်လည်းကောင်း၊ ပြုပြင်မွမ်းမံရန် လိုအပ်လျှင်သော်လည်းကောင်း၊ အဆောက်အဦးပုံစံများအတွက် **"စီးတီးမင်း"** သည် **"မန်းစည်ပင်"** ၏ သဘောတူညီချက်ရယူမည်။

အပိုဒ် ၄ **"မန်းစည်ပင်" ၏ တာဝန်ဝတ္တရားများ**

၄-၀၁ **"မန်းစည်ပင်"** သည် **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်** မှတစ်ဆင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရထံမှ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုချက်ရရှိရေးအတွက် ကူညီဆောင်ရွက်ရန်တာဝန်ယူရမည်။

၄-၀၂ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်သက်သာခွင့်နှင့် ကင်းလွတ်ခွင့်များ လျှောက်ထားရာ၌ ကူညီရန်တာဝန်ယူရမည်။

၄-၀၃ လိုအပ်သော ခွင့်ပြုချက်များ၊ မှတ်ပုံတင်မှုများ၊ လိုင်စင်များကို သက်ဆိုင်ရာ ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ အာဏာပိုင်အဖွဲ့အစည်းများထံမှ ရယူရာတွင် ကူညီရန်တာဝန်ယူရမည်။

၄-၀၄ **"စီးတီးမင်း"** အတွက် ရေနှင့် လျှပ်စစ်ရရှိရေးဟို့တွင် ကူညီဆောင်ရွက်ပေးရမည်။

အပိုဒ် ၅ **တာဝန်ယူခြင်း (Warranty) နှင့် ကိုယ်စားပြုခြင်း (Representation)**

၅-၀၁ **"စီးတီးမင်း"** နှင့် **"မန်းစည်ပင်"** တို့သည် သက်ဆိုင်ရာ ဥပဒေများအရ လုပ်ပိုင်ခွင့်အပ်နှင်းခံရသော တရားဝင်ပုဂ္ဂိုလ်ဖြစ်ကြောင်းနှင့် ဤစာချုပ်ကိုချုပ်ဆိုရန် အခွင့်အာဏာရှိသူ၊ သတ္တာဖွေ တောင့်တင်းသူနှင့် လုပ်ပိုင်ခွင့်ရှိသူအဖြစ် အသီးသီးတင်ပြ၍ တာဝန်ယူကြပါသည်။

အပိုဒ် ၆ **လုပ်ငန်းဘောင်နှင့်လုပ်ဆောင်မှုဖြစ်စဉ် (Frame & Process)**

၆-၀၁ **"စီးတီးမင်း"** သည် အပြည့်ပြည့်ဆိုင်ရာ အဆင့်မီသော အဆောက်အဦနှင့် အသုံးအဆောင် ပစ္စည်းများ၊ ပရိဘောဂများ တပ်ဆင်မှုတန်ဆာများ ထားရှိရမည်။

၆-၀၂ **"မန်းစည်ပင်"** သည် **"စီးတီးမင်း"** အနေဖြင့် ဟိုတယ်၊ Plaza, Shopping Centre & Condominium, Offices & Apartments အခြားလုပ်ငန်းများ ပုံမှန်လည်ပတ်စေ ရန် အောင်မြင်စွာနှင့် ထိရောက်စွာ စီမံဆောင်ရွက်ရန်၊ လုပ်ငန်းများအကောင်အထည် လုပ်ဆောင်ရာတွင် အတတ်နိုင်ဆုံး ကာကွယ်စောင့်ရှောက်မှုပေးရန် တာဝန်ရှိသည်။

၆-၀၃ **"မန်းစည်ပင်"** သည် လိုအပ်သည့်အခါတိုင်း **"စီးတီးမင်း"** ၏ လုပ်ငန်းဌာနများသို့ ဝင်ရောက်ခွင့်ရှိပြီး လုပ်ငန်းစာရင်းများကိုလည်း လိုအပ်သလိုကြည့်ရှု စိစစ်ခွင့်ရှိရမည်။

၆-၀၄ **"စီးတီးမင်း"** သည် ဟိုတယ်လုပ်ငန်းစတင်သည်မှ နှစ် (၃၀)ပြည့်သောအခါတွင် (သို့မဟုတ်) ထပ်မံငှားရမ်းသည့် ကာလကုန်ဆုံးသည့်အခါ ဟိုတယ်။ Plaza, Shopping Centre & Condominium, Offices & Apartments နှင့် အခြားလုပ်ငန်းများ၊ အဆောက်အဦ အပါအဝင်ဆက်စပ်ပတ်သက်လျက်ရှိသော ပစ္စည်းအားလုံး ကို ပုံမှန်လုပ်ဆောင်နိုင်သည့် အခြေအနေအတိုင်း **"မန်းစည်ပင်"** သို့လွှဲပြောင်းပေးရမည်။ လုပ်ငန်းကို **"စီးတီးမင်း"** က ဆက်လက် လုပ်ကိုင်လိုပါက စာချုပ်သက်တမ်း မကုန်မီ အနည်းဆုံး (၃)လ ကြိုတင်၍ ငှါးရမ်းလိုသည့် ကာလကို ဖော်ပြ၍ **"မန်းစည်ပင်"** သို့ တင်ပြပြီး ငှါးရမ်းခသဘောတူစာချုပ်အသစ်ချုပ်ဆို၍ **"မန်းစည်ပင်"** ၏ သဘောတူညီ အချက်အရ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်** ၏ ခွင့်ပြုချက်ဖြင့် ဆက်လက်လုပ်ဆောင်နိုင်သည်။

၆-၀၅ စီမံခန့်ခွဲလုပ်ဆောင်စဉ်ကာလအတွင်း ဟိုတယ်လုပ်ငန်း Plaza, Shopping Centre & Condominium, Offices & Apartments အခြားလုပ်ငန်းများ ဖွံ့ဖြိုးမှုအစီအစဉ်အရ ပုံမှန်လည်ပတ်ရာတွင် ချောမွေ့မှုနှင့် အောင်မြင်မှုရှိသော လုပ်ငန်းအကောင်အထည်ဖော်နိုင်စွမ်း ရှိစေရေးအတွက် **"မန်းစည်ပင်"** သည် **"စီးတီးမင်း"** ၏ လုပ်ငန်းများကို အခါအားလျော်စွာ စစ်ဆေးသုံးသပ်ပြီး လိုအပ်သောညွှန်ကြားမှုများ ပြုလုပ်နိုင်သည်။

၆-၀၆ ဟိုတယ်လုပ်ငန်းကို **"စီးတီးမင်း"** သည် မိမိကိုယ်တိုင်သော်လည်းကောင်း၊ ပိုမိုအဆင့် အတန်းမြင့်လာရေးအတွက် **"မန်းစည်ပင်"** ၏ ကြိုတင်သဘောတူညီချက်အရ ဟိုတယ်လုပ်ငန်းကျွမ်းကျင်သော ကုမ္ပဏီတစ်ခုခုဖြင့်သော်လည်းကောင်း၊ စီမံခန့်ခွဲ၍လုပ်ဆောင်နိုင်သည်။ ပြည်ပကုမ္ပဏီဖြစ်ပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

**အပိုဒ် ၇ ဟိုတယ်၊ Plaza, Shopping Centre & Condominium, Offices & Apartments အခြားလုပ်ငန်းနှင့် အဆောက်အဦးများ လွှဲပြောင်းပေးခြင်း။**

ငှါးရမ်းခြင်းကာလ အနှစ်(၃၀) သို့မဟုတ် ထပ်မံငှါးရမ်းသည့်ကာလပြည့်သောအခါ (သို့မဟုတ်) စာချုပ်ရုပ်သိမ်းသောအခါတွင် ၄င်းနေ့မှစ၍ (၁၅)ရက်အတွင်း အပိုဒ် ၇ ၀၄ တွင် ဖော်ပြထားချက်နှင့်အညီ ငှါးရမ်းမြေနှင့်တကွ အဆောက်အဦအားလုံးနှင့် ဆက်စပ်ပတ်သက်နေသော ပစ္စည်းများအားလုံးကို အဖိုးစားနားမရှိဘဲ အပြည့်ပြည့်ဆိုင်ရာအဆင့်မီအတိုင်းမွမ်းမံထားရှိပြီး ကောင်းမွန်စွာ ပုံမှန်အသုံးပြုနိုင်သည့်အခြေအနေအတိုင်း **"စီးတီးမင်း"** သည် **"မန်းစည်ပင်"** သို့ လွှဲပြောင်းပေးရမည်။

**အပိုဒ် ၈ စာချုပ်စတင် အကျိုးသက်ရောက်သည့်နေ့ရက်**

ဤစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံမှ သဘောတူခွင့်ပြုချက်ရပြီးနောက် အသိသက်သေများရှေ့တွင် နှစ်ဦးနှစ်ဘက် လက်မှတ်ရေးထိုးသော နေ့ရက်မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

**အပိုဒ် ၉ ဝန်ထမ်းများ ခန့်ထားခြင်း**

၉-၀၁ လိုအပ်သောဝန်ထမ်းများကို ပြည်ထောင်စုမြန်မာနိုင်ငံ ဥပဒေများနှင့်အညီ အုပ်ချုပ်မှုအဖွဲ့က ခန့်ထားပြီး ၎င်းတို့လစာများ၊ အခကြေးငွေများ၊ ခရီးစရိတ်များ၊ အခွင့်အရေးများကိုလည်း၊ ဥပဒေပြဌာန်းချက်များနှင့်အညီ ခွင့်ပြုသွားရမည်။ နိုင်ငံခြားဝန်ထမ်းများကို ခန့်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ကိုလည်း ကြိုတင်ရယူရမည်ဖြစ်သည်။

၉-၀၂ နိုင်ငံခြားသား ဝန်ထမ်းများကိုခန့်ထားပါက နိုင်ငံခြားသားဝန်ထမ်းများနှင့် ယင်းတို့၏ မိသားစုများ မြန်မာနိုင်ငံ၌ နေထိုင်စဉ် မြန်မာနိုင်ငံ၏ဥပဒေများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် **"စီးတီးမင်း"** က တာဝန်ယူရမည်။

**အပိုဒ် ၁၀ အာမခံထားရှိခြင်း**

မြန်မာ့အာမခံဥပဒေနှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေများအရ အားလုံးသော လိုအပ်သည့် အာမခံစနစ်အမျိုးမျိုးကို မြန်မာ့အာမခံလုပ်ငန်းတွင် ထားရှိရမည်။

**အပိုဒ် ၁၁ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ**

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂၊ ၁၃တို့တွင် ဖော်ပြပြဌာန်းထားသော အခွန်ကင်းလွတ်ခွင့်နှင့် အခြားသက်သာခွင့်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ခံစားခွင့်ရှိစေရမည်။

**အပိုဒ် ၁၂ ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ခြင်း**

**"စီးတီးမင်း"** သည် ဟိုတယ် Plaza, Shopping Centre & Condominium, Offices & Apartmentsနှင့် အခြားလုပ်ငန်း အဆောက်အဦးများတွင်လည်းကောင်း၊ ယင်းတို့၏ ပတ်ဝန်းကျင်တွင် လည်းကောင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းမှုအတွက် တာဝန်ရှိရမည်။ ၎င်းသည် ရေ၊ မြေ၊ လေ ညစ်ညမ်းမှုနှင့် ပတ်ဝန်းကျင်မသန့်ရှင်းမှုများကို မဖြစ်ပေါ်စေရန် ထိန်းသိမ်းနိုင်ရမည်။ **"စီးတီးမင်း"** သည် ရေဆိုးများ သန့်စင်လုပ်ငန်းကဲ့သို့သော ပတ်ဝန်းကျင် ကာကွယ်မှုရှိစေရန် အစီအမံများပြုလုပ်ရမည်။ ထို့ပြင် မိမိ၏လုပ်ငန်းဝန်းကျင်သာယာ စိမ်းလန်းစိုပြည်နှစ်လိုဖွယ်ရာရှိစေသော သန့်ရှင်းရေး လုပ်ငန်းစဉ်များကို လုပ်ဆောင်ရမည်။

## အပိုဒ် ၁၃ စာချုပ်ရပ်စဲခြင်း

၁၃-၀၁ အောက်ဖော်ပြပါ အခြေအနေအဖြစ်အပျက်များ ပေါ်ပေါက်သည့်အခါတွင် စာချုပ်ရပ်ဆိုင်း သွားစေရမည်။

(က) စာချုပ်ဝင်နှစ်ဦးနှစ်ဘက်က မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ စာချုပ်ရပ်စဲရန်သဘောတူပြီးစာဖြင့်တင်ပြလျှက် မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုကော်မရှင် ကလည်း သဘောတူခွင့်ပြုသည့်အခါ

(ခ) စာချုပ်ဝင်တစ်ဘက်ဘက်က ဤစာချုပ်ပါ သတ်မှတ်ချက်များကို ဖောက်ဖျက် သည့်အခါ

(ဂ) **"စီးတီးမင်း"** သည် လူမွဲအဖြစ် ခံယူသည့်အခါ

၁၃-၀၂ **"စီးတီးမင်း"** သက်ဆိုင်ရာ ဥပဒေတစ်ရပ်ရပ်ကို ဖောက်ဖျက်မှုကြောင့် ဟိုတယ်လုပ်ငန်း လုံးဝရပ်ဆိုင်းခြင်းခံရပါက အငှါးချထားသည့်မြေနှင့် မြေပေါ်တွင်ရှိ **"စီးတီးမင်း"** မှ ဆောက်လုပ်ခဲ့သည့် အဆောက်အအုံ၊ ပစ္စည်းများ အားလုံးပေါ်တွင် တပ်ဆင်မှုများ ပုံစံပြောင်းလဲမှုများ အပါအဝင် အားလုံး တို့ကို **"စီးတီးမင်း"** ထံသို့ အဖိုးစားနားမယူဘဲ ပြန်လည်အပ်နှံခြင်းပြုရမည်။

၁၃-၀၃ **"စီးတီးမင်း"** သည် ဤစာချုပ်ပါ သဘောတူညီချက်များကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ပြီး ထိုပျက်ကွက်ခြင်းများအတွက် (၆)လအတွင်း ခိုင်လုံသော အကြောင်းပြချက်များ မတင်ပြနိုင်ပါက စာချုပ်ရပ်စဲပြီး မြေနှင့်တကွ မြေပေါ်ရှိ အဆောက်အအုံ၊ ပစ္စည်းများ အားလုံးအပေါ်တွင် တပ်ဆင်မှုများ ပုံစံပြောင်းလဲမှုများမရှိဘဲ အပါအဝင်အားလုံး တို့ကို **"မန်းစည်ပင်"** သို့ အဖိုးစားနားမဲ့ ပြန်လည်အပ်နှံခြင်းပြုရမည်။

## အပိုဒ် ၁၄ ကြိုတင်စည်းကမ်းသတ်မှတ်ချက်

ဤစာချုပ် အကျိုးသက်ရောက်မှုသည် ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း သက်ဆိုင်ရာ အစိုးရအာဏာပိုင်များ၏ ထိုစာချုပ်ကို အကောင်အထည်ဖော်ဆောင်ရန် လိုအပ်သောသဘောတူညီချက်နှင့် ခွင့်ပြုမိန့်များရရှိပြီးမှသာ အတည်ဖြစ်၍ အကျိုးသက်ရောက်စေရမည်။

## အပိုဒ် ၁၅ စာချုပ်ကို ပြင်ဆင်ဖြည့်စွက်ခြင်း

စာချုပ်တွင် မပါဝင်ခဲ့သော ကိစ္စရပ်တစ်ရပ်ရပ်ကြောင့် ဖြစ်ပေါ်မှု တစ်ရပ်ရပ် (သို့မဟုတ်) အခြေအနေတစ်ရပ်ရပ် ပေါ်ပေါက်ပြီး စာချုပ်ကို ပြင်ဆင်ဖြည့်စွက်ရန် လိုအပ်ပါက သက်ဆိုင်သူများသည် ထိုကဲ့သို့သော လိုအပ်သည့်ပြင်ဆင် ဖြည့်စွက်ချက်ကို နှစ်ဘက်ညှိနှိုင်းရေးသား၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူညီချက်ရယူကာ ပြင်ဆင်ဖြည့်စွက်ကြရမည်။

**အပိုဒ် ၁၆ မတားဆီးနိုင်သော ဖြစ်ရပ်များ**

၁၆-၀၁ မိမိ၏ တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာတွင် စာချုပ်ဝင်တစ်ဘက်ဘက်သည် မတားဆီးနိုင်သော ဖြစ်ရပ်များကြောင့် ပျက်ကွက်ခြင်း၊ နှောင့်နှေးခြင်းများရှိသဖြင့် အခြားတစ်ဘက်တွင် နစ်နာမှုများပေါ်ပေါက်လာလျှင် ထိုသူသည် ယင်းနစ်နာမှုအတွက် တာဝန်မရှိစေရ။ **မတားဆီးနိုင်သော ဖြစ်ရပ်များ** ဆိုသည်မှာ အစိုးရဟာစ်ဖွဲ့ဖွဲ့၏ တားဆီးမိန့်၊ သပိတ်မှောက်မှု၊ စစ်ဖြစ်မ၍၊ ပိတ်ဆို့ထားမှု၊ သူပုန်ထမှု၊ အထိကရုန်းဖြစ်မှု၊ ကူးစက်ရောဂါပြန့်ပွားမှု၊ ပေါက်ကွဲမှု၊ မီးလောင်မှု၊ ရေကြီးမှု၊ လေမုန်တိုင်းကျမှု၊ စသော တစ်ဘက်ဘက်တွင် လိုအပ်သောသတိနှင့် ဝီရိယရှိစေကာမူ မတားဆီးနိုင် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်သည်၊

၁၆-၀၂ စာချုပ်ဝင်နှစ်ဦးနှစ်ဘက်တို့သည် ထိုကဲ့သို့မတားဆီးနိုင်သည့် ဖြစ်ရပ်များနှင့်ကြုံတွေ့ရလျှင် ကြုံတွေ့ရသူက အခြားတစ်ဘက်ကထိုအဖြစ်အပျက်ကိုဖြစ်ပွားပြီး(၇)ရက်အတွင်းဖြစ်ပွားမှု အခြေအနေ အသေးစိတ်ကိုအကြောင်းကြားရမည်။ အတားအဆီးခံရသောသူ၏ တာဝန်များကို အခြားတစ်ဘက်၏သဘောတူညီမှုအရ ထိုမတားဆီးနိုင်သည့် အခြေအနေကာလအတွင်းဆိုင်းငံ့စေရမည်။ သို့ရာတွင် ထိုဆိုင်းငံ့ကာလသည် အကျိုးအကြောင်းဆက်နွယ်မှုအရ လိုအပ်သည်ထက်ပို၍ မကြာစေရဘဲ ထိုအဖြစ်အပျက်ကိုလည်း အတားအဆီးခံရသူက အမြန်ဆုံးဖြစ်နိုင်သမျှဖယ်ရှားပစ်ရမည်။

၁၆-၀၃ ထိုမတားဆီးနိုင်သည်ဖြစ်ရပ်ကို ဖယ်ရှားပြီးသည်နှင့် တစ်ပြိုင်နက် အတားအဆီးခံရသူသည် တာဝန်သိတတ်မှုဖြင့် အမြန်ဆုံးနှင့် အထိရောက်ဆုံးလုပ်ငန်း ဆောင်ရွက်ရမည်။

**အပိုဒ် ၁၇ အနုညာတစီရင်ခြင်း**

၁၇-၀၁ **"စီးတီးမင်း"** နှင့် **"မန်းစည်ပင်"** တို့အကြား စာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်ပါက ရှေးဦးစွာနှစ်ဦးနှစ်ဘက်အကြား ကောင်းမွန်မျှတသော ပြေလည်မှုရရှိရေးအတွက် ညှိနှိုင်းခြင်းဖြင့် ပြေလည်အောင် ဆောင်ရွက်ကြရမည်။

၁၇-၀၂ နှစ်ဦးနှစ်ဘက်ကြား အငြင်းပွားမှုကို ပြေလည်စွာ မဖြေရှင်းနိုင်ပါက ထိုအငြင်းပွားမှု ကို အနုညာတနည်းအားဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံ မန္တလေးမြို့တွင် ဖြေရှင်းရမည်။ အနုညာတခုံသမာဓိ လူကြီးတစ်ဦးစီကို တစ်ဘက်ဘက်စီက ခန့်ထားပြီး ထို ပြဿနာကို ဖြေရှင်းစေကာမူ မပြီးပြတ်ပါက ခုံသမာဓိလူကြီးနှစ်ဦးက နောက်ဆုံးအဆင့်ခုံ သမာဓိလူကြီးတစ်ဦး (Umpire) ကို နှစ်ဦးသဘောတူ ရွေးချယ်ပြီးဆုံးဖြတ်စေရမည်။ ထိုနောက်ဆုံးအဆင့် ခုံသမာဓိလူကြီး၏ အဆုံးအဖြတ်သည် အပြီးသတ်ဖြစ်စေရမည်။ အနုညာတခုံဖြင့် ဆောင်ရွက်ရာတွင် ၁၉၄၄ ခုနှစ်၊ အနုညာတအက်ဥပဒေ (၁၉၄၄ ခုနှစ် မြန်မာအက်ဥပဒေအမှတ်-၁၄) ပြဋ္ဌာန်းချက်များနှင့်အညီဆောင်ရွက်ရမည်။

အပိုဒ် ၁၈ **စာပေးစာယူပြုရန် လိပ်စာများ**

**"စီးတီးမင်း"** **နှင့်** **"မန်းစည်ပင်"** တို့အကြား စာဆက်သွယ်ခြင်း၊ အကြောင်းကြားစာပေး ပို့ခြင်းများကို အောက်ပါလိပ်စာများသို့ လိပ်မူရမည်။

| (၁) | (၂) |
| --- | --- |
| "မန်းစည်ပင်" | "စီးတီးမင်း" |
| ဥက္ကဋ္ဌ | ဒါရိုက်တာ |
| မန္တလေးစည်ပင်သာယာရေးကော်မတီ | စီးတီးမင်းကုမ္ပဏီလီမိတက် |
| မန္တလေးမြို့ | အမှတ် ၄၀၂၊ ကန်နားလမ်း၊ |
| | ကြည့်မြင်တိုင်မြို့နယ်၊ ရန်ကုန်မြို့ |

အပိုဒ် ၁၉ **အထွေထွေ**

၁၉-၀၁ ဤစာချုပ်ပါ ပြဋ္ဌာန်းချက်များသည် မြေငှားရမ်းခြင်း သဘောတူစာချုပ်ပါ ပြဋ္ဌာန်းချက်များနှင့် ညီညွတ်မှုမရှိပါက ဤစာချုပ်ပါ ပြဋ္ဌာန်းချက်များက လွှမ်းမိုးစေရမည်။

၁၉-၀၂ နောက်ဆက်တွဲ ပုံစံများ၊ မြေပုံများ၊ စာရင်းများအားလုံးသည် ဤစာချုပ်၏ တစ်ပုံး တစ်ပေါင်းတည်းသော အစိတ်အပိုင်းများ ဖြစ်စေရမည်။

၁၉-၀၃ ဤစာချုပ်သည် နှစ်ဦးနှစ်ဘက်တို့၏ သဘောပေါက်နားလည်မှုများပါရှိပြီး ဤအကြောင်းအရာများ အပေါ် ယခင်ကအချင်းချင်းသဘောတူညီချက်များ၊ နားလည်မှုများအားလုံးကိုလည်းလွှမ်းမိုးသည်။

အထက်ပါအချက်အလက်များကို နားလည်သဘောပေါက်သိရှိသည့်အတိုင်း နှစ်ဦးနှစ်ဘက် သက်ဆိုင်သူများသည် အောက်တွင် မိမိ၏လက်မှတ်နှင့် တံဆိပ်များကို အထက်ပါ ဖော်ပြ ရေးသားထားသည့် ရက်၊ လနှင့် ခုနှစ်တွင် သဘောတူကြောင်း ရေးထိုးရိုက်နှိပ်ကြပါသည်။

| | |
|---|---|
| ညွှန်ကြားရေးမှူး | ဒါရိုက်တာ |
| မန္တလေးစည်ပင်သာယာရေးကော်မတီ | စီးတီးမင်းကုမ္ပဏီလီမိတက် |

အသိသက်သေများ

| (၁) | (၂) |
|---|---|
| လက်မှတ် ………… | လက်မှတ် ………… |
| အမည် [illegible] | အမည် [illegible] |
| ရာထူး [illegible] | ရာထူး [illegible] |
| လိပ်စာ [illegible] | လိပ်စာ [illegible] |
| [illegible] | [illegible] |

မန္တလေးမြို့ စည်ပင်သာယာရေးကော်မတီ

နှင့်

# ဒီးတီးမင်း ကုမ္ပဏီလီမိတက်

တို့အကြား

ချုပ်ဆိုသော

# မြေငှားရမ်းခြင်း သဘောတူစာချုပ်

မန္တလေးမြို့ စည်ပင်သာယာမရေး ကော်မတီနှင့်
စီးတီးမင်း ကုမ္ပဏီလီမိတက်
တို့အကြား ချုပ်ဆိုသော
မြေငှားရမ်းခြင်း သဘောတူစာချုပ်

မာတိကာ

# မြေငှားရမ်းခြင်း သဘောတူစာချုပ်

ဤမြေငှားသဘောတူစာချုပ်ကို မန္တလေးမြို့တွင် တစ်ထောင့်ကိုးရာကိုးဆယ့်ခုနှစ် ခုနှစ်၊ မေ လ၊ ၂၀ ရက်နေ့တွင် ပြည်ထောင်စု မြန်မာနိုင်ငံတော်၊ ဝန်ကြီးချုပ်ရုံးလက်အောက်ရှိ ပြည်ထောင်စုမြန်မာနိုင်ငံ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထားသည့် **"မန္တလေးမြို့ စည်ပင်သာယာရေးကော်မတီ"** (နောင်တွင် အခြားကွဲပြားသော အဓိပ္ပာယ်ဖော်ပြချက်ရှိသည်မှတစ်ပါး ၎င်း၏ ဆက်ခံသူများ၊ ဥပဒေအရ ခွင့်ပြုထားသော လွှဲအပ်ခြင်း ခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များ အပါအဝင် **"အငှားချထားသူ"** ဟု ရည်ညွှန်းသည်။)က တစ်ဖက်

နှင့်

အခြားတစ်ဖက်တွင် ရန်ကုန်မြို့၊ ကြည့်မြင်တိုင်မြို့နယ်၊ ကမ်းနားလမ်း အမှတ် (၄၀၂)တွင် မှတ်ပုံတင်ရုံးတည်ရှိသော ပြည်ထောင်စုမြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းထားသည့် ကုမ္ပဏီလီမိတက်တစ်ခုဖြစ်သော **စီးတီးမင်း ကုမ္ပဏီလီမိတက်** (နောင်တွင် အခြားကွဲပြားသော အဓိပ္ပာယ်ဖော်ပြချက်ရှိသည်မှ တစ်ပါး ၎င်း၏ ဆက်ခံသူများ၊ ဥပဒေအရ ခွင့်ပြုထားသော လွှဲအပ်ခြင်းခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များ အပါအဝင် "အငှားချထားခြင်းခံရသူ" ဟု ရည်ညွှန်းသည်။) တို့သည် အောက်ဖော်ပြပါ ဆန္ဒသဘောထားချက်များ ရှိကြသည်။

(က) "အငှားချထားခြင်းခံရသူ" သည် မန္တလေးမြို့၊ ချမ်းအေးသာစံမြို့နယ်၊ ၇၇လမ်းနှင့် ၇၈လမ်း၊ ၃၁လမ်းနှင့် ၃၄လမ်းအကြားရှိ မီးရထားအိမ်ရာတွင် မြေငှားရမ်း၍ အဆောက်အအုံများ ဆောက်လုပ်နိုင်ရန်အတွက် အောက်ပါအတိုင်း ဆောင်ရွက်ပါသည်။

- (၁) အထပ် (၁၆) ထပ်ရှိသော ဟိုတယ်တည်ဆောက်မှုလုပ်ငန်းတွင် ကျပ်သိန်းပေါင်း ၁၅၀၀ (ကျပ်သိန်း တစ်ထောင့်ငါးရာတိတိ) နှင့် US$၁၅သန်း (ဒေါ်လာ တစ်ဆယ့်ငါးသန်းတိတိ) ဖြင့် သော်လည်းကောင်း၊
- (၂) အထပ် (၅)ထပ်ရှိသော Plaza တည်ဆောက်မှုလုပ်ငန်းတွင် ကျပ်သိန်းပေါင်း ၁၂၅၀ (ကျပ်သိန်းတစ်ထောင်နှစ်ရာ ငါးဆယ် တိတိ) နှင့် US$၁၂.၅ သန်း (ဒေါ်လာ တစ်ဆယ့်နှစ်သန်း ငါးသိန်းတိတိ)
- (၃) အထပ် (၈)ထပ်ရှိသော Shopping Centre & Condominium တည်ဆောက်မှုလုပ်ငန်းတွင် ကျပ်သိန်းပေါင်း ၁၂၅၀ (ကျပ်သိန်း တစ်ထောင်နှစ်ရာငါးဆယ် တိတိ) နှင့် US$ ၁၂.၅ သန်း (ဒေါ်လာ တစ်ဆယ့်နှစ်သန်းငါးသိန်းတိတိ) ဖြင့် သော်လည်းကောင်း၊
- (၄) အထပ် (၉)ထပ်ရှိသော Offices & Apartments တည်ဆောက်မှုလုပ်ငန်းတွင် ကျပ်သိန်းပေါင်း ၁၀၀၀ (ကျပ်သိန်းတစ်ထောင်တိတိ) နှင့် US$ ၁၀သန်း (ဒေါ်လာတစ်ဆယ်သန်း တိတိ) ဖြင့်သော်လည်းကောင်း တည်ဆောက်သွားမည်ဖြစ်၍ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏ ကျပ်သိန်းပေါင်း ၅၀၀၀ (ကျပ်သိန်းငါးထောင် တိတိ) နှင့် US$ ၅၀သန်း (ဒေါ်လာ ငါးဆယ်သန်းဆယ်တိတိ) ကို အကုန်အကျခံ၍ တည်ဆောက်သွားမည် ဖြစ်ပါသည်။

(ခ) "အငှားချထားခြင်းခံရသူ"က ယင်းမြေ ၁၅.၄ ဧကအတွက် မြေအသုံးချခွင့် (Land Use Premium) အဖြစ် ကျပ်သိန်းပေါင်း ၄၆၀၀ (ကျပ်သိန်းလေးထောင့်ခြောက်ရာတိတိ) ကို "အငှားချထားသူ" သို့ ပေးသွင်းရမည်ဖြစ်ရာ မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည့်နေ့တွင် Land Use Premium ပေးသွင်းရမည့်ငွေ၏ တစ်ဝက်ကို ပေးသွင်းရမည်ဖြစ်ပြီး ကျန်တစ်ဝက်ကို စာချုပ်ချုပ်ဆိုပြီးသည့်နေ့မှစ၍ (၆)လ မှ (၈)လအတွင်း ပေးသွင်းသွားမည် ဖြစ်ပါသည်။

(ဂ) "အငှားချထားသူ" သည် အဆိုပါ မြေပိုင်ဆိုင်ခွင့်နှင့်စပ်လျဉ်း၍ တရားဝင်ပိုင်ဆိုင်ခွင့်ရှိကြောင်း အာမခံလျက် ယင်းမြေကို ပြည်ထောင်စုမြန်မာနိုင်ငံတွင် ဖြစ်ပေါ်တိုးတက်သော လုပ်ငန်းများ ထွန်းကားရေးအတွက် အသုံးချစေရန် ဆန္ဒရှိပါသည်။

(ဃ) "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့သည် ဤမြေငှားရမ်းခြင်း သဘောတူစာချုပ်ကို ချုပ်ဆိုရန် တရားဝင်အခွင့်အာဏာများ ရှိကြပါသည်။

ဤမြေငှားရမ်းခြင်း သဘောတူစာချုပ်က အောက်ပါအချက်အလက်များကို သက်သေခံပါသည်။

၁။ **သဘောတူစာချုပ်၏ အပိုင်းအခြား**

(က) "အငှားချထားခြင်းခံရသူ" က ဤစာချုပ်နောက်ပိုင်းတွင် ဖော်ပြပါရှိသော ငှားရမ်းခ ပေးချေခြင်းနှင့် ကတိအာမခံချက်များ တာဝန်ယူခြင်းတို့ကို ထောက်ထားလျက် "အငှားချထားသူ"က ပူးတွဲဖော်ပြထားသည့် မြေပုံ (၁၅ .၄)ဧက ကျယ်ဝန်းသည့်မြေကို အထူးအားဖြင့် မြေအောက်သယံဇာတများ၊ ဓာတ်သတ္တုများ၊ ရတနာများရှိသော ဖော်ပြပါမြေ၏အတွင်း၊ အောက်နှင့် အဝန်းအပိုင်းများမှတစ်ပါး အခြားအခွင့် အရေးများ၊ ခံစားခွင့်များနှင့် အဆွယ်အပွားများ၊ အခွင့်အရေးများ အပါအဝင်တို့ကို "အငှားချထားခြင်းခံရသူ"အား လုပ်ငန်းစတင်သည့်နေ့မှ နှစ်ပေါင်း (၃၀)ကာလအထိ ငှားရမ်းပါသည်။ နှစ်ပေါင်း (၃၀)ကာလ ကုန်ဆုံးပြီးနောက် နှစ်ဖက်သဘောတူညီလျှင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ထောက်ခံချက်ဖြင့် အစိုးရအဖွဲ့က ခွင့်ပြုပါက ထပ်တိုး (၅)နှစ်ကာလ (၃)ကြိမ် ထပ်မံငှားရမ်းပါမည်။

(ခ) စာချုပ်သက်တမ်းကုန်ဆုံးသောအခါတွင် ၎င်းနေ့မှစ၍ (၁၅)ရက်အတွင်း ငှားရမ်းမြေကွက်နှင့်တကွ အဆောက်အအုံအားလုံးနှင့် ဆက်စပ်ပတ်သက်နေသော ပစ္စည်းအားလုံးတို့ကို အဖိုးစားနားမရှိဘဲ အပြည့်ပြည့်ဆိုင်ရာ အဆင့်မီအတိုင်း မွမ်းမံထားရှိပြီး ကောင်းမွန်စွာ ပုံမှန်အသုံးပြုနိုင်သည့် အခြေအနေအတိုင်း "အငှားချထားခြင်းခံရသူ" က "အငှားချထားသူ" ထံသို့ လွှဲပြောင်းပေးရမည်။

(ဂ) စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်ငှားရမ်းလိုပါက စာချုပ်သက်တမ်း မကုန်ဆုံးမီ ၃လ (သုံးလ)အတွင်း "အငှားချထားသူ" ၏ သဘောတူညီချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆက်လက်လုပ်ဆောင်နိုင်သည်။

၂။ မြေငှားရမ်းခနှင့် ပေးချေမှု သတ်မှတ်ချက်

(က) “အငှားချထားခြင်းခံရသူ” က “အငှားချထားသူ” ထံသို့ ပေးချေရမည့် နှစ်စဉ်ငှားရမ်းခမှာ ဟိုတယ်လုပ်ငန်းအတွက် ပေးချေရမည့် နှစ်စဉ်ငှားရမ်းခမှာ ကျပ်ငွေဖြင့်ရရှိသည့် စုစုပေါင်း ဝင်ငွေ (gross income in kyats) ၏ ၅% (ငါးရာခိုင်နှုန်း) နှင့် ညီမျှသော ကျပ်ငွေ (သို့မဟုတ်) ကျပ်သိန်း ၁၅၀ (ကျပ်သိန်း တစ်ရာ့ငါးဆယ်တိတိ) တို့အနက် များရာကို ပေးရမည့်အပြင် အမေရိကန် ဒေါ်လာဖြင့် ရရှိသည့် စုစုပေါင်းဝင်ငွေ (gross income in US dollras) ၏ ၅% (ငါးရာခိုင်နှုန်း)ကိုလည်း ပေးရမည်။

(ခ) “အငှားချထားခြင်းခံရသူ” က “အငှားချထားသူ” ထံသို့ ကျန်လုပ်ငန်းများဖြစ်သည့် ပလာဇာ (Plaza)၊ ရုံးခန်းနှင့် လူနေအိမ်ခန်း (Offices & Apartments)၊ ဈေးဆိုင်ခန်းနှင့် အရောင်းပြခန်းများ (Shopping Centre and Condominium)လုပ်ငန်းများအတွက် ပေးချေရမည့် နှစ်စဉ်ငှားရမ်းခမှာ ငှားရမ်းနိုင်သောဧရိယာ (Net Rentable Area) ၏ တစ်စတုရန်းမီတာလျှင် မြန်မာကျပ်ငွေဖြင့် ငှားရမ်းပါက ကျပ် ၆၀၀/- (ကျပ်ခြောက်ရာတိတိ) နှုန်းဖြင့်လည်းကောင်း၊ အမေရိကန် ဒေါ်လာငွေဖြင့် ငှားရမ်းပါက ၆ဒေါ်လာ (ခြောက်ဒေါ်လာ တိတိ) နှုန်းဖြင့်လည်းကောင်း ပေးချေရမည်။

(ဂ) အဆိုပါ ပလာဇာ (Plaza)၊ ရုံးခန်း နှင့် လူနေအိမ်ခန်း (Offices & Apartments)၊ ဈေးဆိုင်ခန်းနှင့် အရောင်းပြခန်းများ (Shopping Centre and Condominium)လုပ်ငန်းများအတွက် အကယ်၍ ငှားရမ်းရရှိခြင်း မရှိသောကြောင့် အရှုံးပေါ်ပေါက်ခဲ့ပါက နိုင်ငံတော်မှ တာဝန်ပေးသည့် စာရင်းစစ် အဖွဲ့ဖြင့် စစ်ဆေးပြီး၊ အဆိုပါစာရင်းစစ်အစီရင်ခံစာအရ အရှုံးပေါ်ပေါက်ကြောင်း မှန်ကန်သည်ဟု တွေ့ရှိရပါက အဆိုပါစာရင်းစစ်ဆေးသော ကာလအတွက် ငှားရမ်းပေးချေခြင်းမှ ကင်းလွတ်ခွင့်ပြုရန် ဖြစ်သည်။ အရှုံးပေါ်ပေါက်ခြင်းမရှိပါက အထက်ပါ အပိုဒ်၂(က) နှင့် (ခ)တို့တွင် သတ်မှတ်ချက် အတိုင်း ပေးချေရမည်။

(ဃ) “အငှားချထားခြင်းခံရသူ” သည် စာချုပ်ချုပ်ဆိုပြီး လက်ရှိအဆောက်အအုံဟောင်းများ ရွှေ့ပြောင်းပေးပြီးသည့်နေ့မှစ၍ (၄၈)လအတွင်း (၁၆)ထပ်ရှိသော ဟိုတယ်၊ (၅)ထပ်ရှိသော Plaza၊ (၈)ထပ်ရှိသော Shopping Centre & Condominiumနှင့် (၉)ထပ်ရှိသော Offices & Apartmentsအဆောက်အအုံများကို အပြီးအစီး တည်ဆောက်ပြီး ဖွင့်လှစ်နိုင်ရမည်။ အကယ်၍ မဖွင့်လှစ်နိုင်ပါက ဖွင့်လှစ်နိုင်ဘိသကဲ့သို့ (၄၈)လပြည့်သည့်နေ့မှစ၍ သတ်မှတ်သည့် နှစ်စဉ်ငှားရမ်းခငွေဖြစ်သော ဟိုတယ်လုပ်ငန်းအတွက် ကျပ်သိန်း ၁၅၀ (ကျပ်သိန်းတစ်ရာ့ငါးဆယ်တိတိ) နှုန်းထားအတိုင်း ပေးချေရမည်။

**အပိုဒ် ၈ စာချုပ်စတင် အကျိုးသက်ရောက်သည့်နေ့ရက်**

ဤစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံမှ သဘောတူခွင့်ပြုချက်ရပြီးနောက် အသိသက်သေများရှေ့တွင် နှစ်ဦးနှစ်ဘက် လက်မှတ်ရေးထိုးသော နေ့ရက်မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

**အပိုဒ် ၉ ဝန်ထမ်းများ ခန့်ထားခြင်း**

၉-၀၁ လိုအပ်သောဝန်ထမ်းများကို ပြည်ထောင်စုမြန်မာနိုင်ငံ ဥပဒေများနှင့်အညီ အုပ်ချုပ်မှုအဖွဲ့က ခန့်ထားပြီး ၎င်းတို့လစာများ၊ အခကြေးငွေများ၊ ခရီးစရိတ်များ၊ အခွင့်အရေးများကိုလည်း၊ ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ ခွင့်ပြုသွားရမည်။ နိုင်ငံခြားဝန်ထမ်းများကို ခန့်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ကိုလည်း ကြိုတင်ရယူရမည်ဖြစ်သည်။

၉-၀၂ နိုင်ငံခြားသား ဝန်ထမ်းများကိုခန့်ထားပါက နိုင်ငံခြားသားဝန်ထမ်းများနှင့် ယင်းတို့၏ မိသားစုများ မြန်မာနိုင်ငံ၌ နေထိုင်စဉ် မြန်မာနိုင်ငံ၏ဥပဒေများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် **"စီးတီးမင်း"** က တာဝန်ယူရမည်။

**အပိုဒ် ၁၀ အာမခံထားရှိခြင်း**

မြန်မာ့အာမခံဥပဒေနှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေများအရ အားလုံးသော လိုအပ်သည့် အာမခံစနစ်အမျိုးမျိုးကို မြန်မာ့အာမခံလုပ်ငန်းတွင် ထားရှိရမည်။

**အပိုဒ် ၁၁ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ**

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂၊ ၁၃တို့တွင် ဖော်ပြပြဋ္ဌာန်းထား သော အခွန်ကင်းလွတ်ခွင့်နှင့် အခြားသက်သာခွင့်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ခံစားခွင့်ရှိစေရမည်။

**အပိုဒ် ၁၂ ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ခြင်း**

**"စီးတီးမင်း"** သည် ဟိုတယ် Plaza, Shopping Centre & Condominium, Offices & Apartmentsနှင့် အခြားလုပ်ငန်း အဆောက်အဦးများတွင်လည်းကောင်း၊ ယင်းတို့၏ ပတ်ဝန်းကျင်တွင် လည်းကောင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းမှုအတွက် တာဝန်ရှိရမည်။ ၎င်းသည် ရေ၊ မြေ၊ လေ ညစ်ညမ်းမှုနှင့် ပတ်ဝန်းကျင်မသန့်ရှင်းမှုများကို မဖြစ်ပေါ်စေရန် ထိန်းသိမ်းနိုင်ရမည်။ **"စီးတီးမင်း"** သည် ရေဆိုးများ သန့်စင်လုပ်ငန်းကဲ့သို့သော ပတ်ဝန်းကျင် ကာကွယ်မှုရှိစေရန်၊ အစီအမံများပြုလုပ်ရမည်။ ထို့ပြင် မိမိ၏လုပ်ငန်းဝန်းကျင်သာမက စိုပြည်နှစ်လိုဖွယ်ရာရှိစေသော သန့်ရှင်းရေး လုပ်ငန်းစဉ်များကို လုပ်ဆောင်ရမည်။

## အပိုဒ် ၁၃ **စာချုပ်ရပ်စဲခြင်း**

၁၃-၀၁ အောက်ဖော်ပြပါ အခြေအနေအဖြစ်အပျက်များ ပေါ်ပေါက်သည့်အခါတွင် စာချုပ်ရပ်ဆိုင်း သွားစေရမည်။

(က) စာချုပ်ဝင်နှစ်ဦးနှစ်ဘက်က မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ စာချုပ်ရပ်စဲရန်သဘောတူပြီးစာဖြင့်တင်ပြလျှက် မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုကော်မရှင် ကလည်း သဘောတူခွင့်ပြုသည့်အခါ

(ခ) စာချုပ်ဝင်တစ်ဘက်ဘက်က ဤစာချုပ်ပါ သတ်မှတ်ချက်များကို ဖောက်ဖျက် သည့်အခါ

(ဂ) **"စီးတီးမင်း"** သည် လူမွဲအဖြစ် ခံယူသည့်အခါ

၁၃-၀၂ **"စီးတီးမင်း"** သက်ဆိုင်ရာ ဥပဒေတစ်ရပ်ရပ်ကို ဖောက်ဖျက်မှုကြောင့် ဟိုတယ်လုပ်ငန်း လုံးဝရပ်ဆိုင်းခြင်းခံရပါက အငှါးချထားသည့်မြေနှင့် မြေပေါ်တွင်ရှိ **"စီးတီးမင်း"** မှ ဆောက်လုပ်ခဲ့သည့် အဆောက်အအုံ၊ ပစ္စည်းများ အားလုံးပေါ်တွင် တပ်ဆင်မှုများ ပုံစံပြောင်းလဲမှုများ အပါအဝင် အားလုံး တို့ကို **"စီးတီးမင်း"** ထံသို့ အဖိုးစားနားမယူဘဲ ပြန်လည်အပ်နှံခြင်းပြုရမည်။

၁၃-၀၃ **"စီးတီးမင်း"** သည် ဤစာချုပ်ပါ သဘောတူညီချက်များကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ပြီး ထိုပျက်ကွက်ခြင်းများအတွက် (၆)လအတွင်း ခိုင်လုံသော အကြောင်းပြချက်များ မတင်ပြနိုင်ပါက စာချုပ်ရပ်စဲပြီး မြေနှင့်တကွ မြေပေါ်ရှိ အဆောက်အအုံ၊ ပစ္စည်းများအားလုံးအပေါ်တွင် တပ်ဆင်မှုများ ပုံစံပြောင်းလဲမှုများမရှိဘဲ အပါအဝင်အားလုံး တို့ကို **"မန်းစည်ပင်"** သို့ အဖိုးစားနားမဲ့ ပြန်လည်အပ်နှံခြင်းပြုရမည်။

## အပိုဒ် ၁၄ **ကြိုတင်စည်းကမ်းသတ်မှတ်ချက်**

ဤစာချုပ် အကျိုးသက်ရောက်မှုသည် ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း သက်ဆိုင်ရာ အစိုးရအာဏာပိုင်များ၏ ထိုစာချုပ်ကို အကောင်အထည်ဖော်ဆောင်ရန် လိုအပ်သောသဘောတူညီချက်နှင့် ခွင့်ပြုမိန့်များရရှိပြီးမှသာ အတည်ဖြစ်၍ အကျိုးသက်ရောက်စေရမည်။

## အပိုဒ် ၁၅ **စာချုပ်ကို ပြင်ဆင်ဖြည့်စွက်ခြင်း**

စာချုပ်တွင် မပါဝင်ခဲ့သော ကိစ္စရပ်တစ်ရပ်ရပ်ကြောင့် ဖြစ်ပေါ်မှု တစ်ရပ်ရပ် (သို့မဟုတ်) အခြေအနေတစ်ရပ်ရပ် ပေါ်ပေါက်ပြီး စာချုပ်ကို ပြင်ဆင်ဖြည့်စွက်ရန် လိုအပ်ပါက သက်ဆိုင်သူများသည် ထိုကဲ့သို့သော လိုအပ်သည့်ပြင်ဆင် ဖြည့်စွက်ချက်ကို နှစ်ဘက်ညှိနှိုင်းရေးသား၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူညီချက်ရယူကာ ပြင်ဆင်ဖြည့်စွက်ကြရမည်။

**အပိုဒ် ၁၆ မတားဆီးနိုင်သော ဖြစ်ရပ်များ**

၁၆-၀၁ မိမိ၏ တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာတွင် စာချုပ်ဝင်တစ်ဘက်ဘက်သည် မတားဆီးနိုင်သော ဖြစ်ရပ်များကြောင့် ပျက်ကွက်ခြင်း၊ နှောင့်နှေးခြင်းများရှိသဖြင့် အခြားတစ်ဘက်တွင် နစ်နာမှုများပေါ်ပေါက်လာလျှင် ထိုသူသည် ယင်းနစ်နာမှုအတွက် တာဝန်မရှိစေရ။ **မတားဆီးနိုင်သော ဖြစ်ရပ်များ** ဆိုသည်မှာ အစိုးရဟာစ်ဖွဲ့ဖွဲ့၏ တားဆီးမိန့်၊ သပိတ်မှောက်မှု၊ စစ်ဖြစ်မ၍၊ ပိတ်ဆို့ထားမှု၊ သူပုန်ထမှု၊ အထိကရုန်းဖြစ်မှု၊ ကူးစက်ရောဂါပြန့်ပွားမှု၊ ပေါက်ကွဲမှု၊ မီးလောင်မှု၊ ရေကြီးမှု၊ လေမုန်တိုင်းကျမှု၊ စသော တစ်ဘက်ဘက်တွင် လိုအပ်သောသတိနှင့် ဝီရိယရှိစေကာမူ မတားဆီးနိုင် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်သည်၊

၁၆-၀၂ စာချုပ်ဝင်နှစ်ဦးနှစ်ဘက်တို့သည် ထိုကဲ့သို့မတားဆီးနိုင်သည့် ဖြစ်ရပ်များနှင့်ကြုံတွေ့ရလျှင် ကြုံတွေ့ရသူက အခြားတစ်ဘက်ကထိုအဖြစ်အပျက်ကိုဖြစ်ပွားပြီး(၅)ရက်အတွင်းဖြစ်ပွားမှု အခြေအနေအသေးစိတ်ကိုအကြောင်းကြားရမည်။ အတားအဆီးခံရသောသူ၏ တာဝန်များကို အခြားတစ်ဘက်၏သဘောတူညီမှုအရ ထိုမတားဆီးနိုင်သည့် အခြေအနေကာလအတွင်းဆိုင်းငံ့စေရမည်။ သို့ရာတွင် ထိုဆိုင်းငံ့ကာလသည် အကျိုးအကြောင်းဆက်နွယ်မှုအရ လိုအပ်သည်ထက်ပို၍ မကြာစေရဘဲ ထိုအဖြစ်အပျက်ကိုလည်း အတားအဆီးခံရသူက အမြန်ဆုံးဖြစ်နိုင်သမျှဖယ်ရှားပစ်ရမည်။

၁၆-၀၃ ထိုမတားဆီးနိုင်သည့်ဖြစ်ရပ်ကို ဖယ်ရှားပြီးသည်နှင့် တစ်ပြိုင်နက် အတားအဆီးခံရသူသည် တာဝန်သိတတ်မှုဖြင့် အမြန်ဆုံးနှင့် အထိရောက်ဆုံးလုပ်ငန်း ဆောင်ရွက်ရမည်။

**အပိုဒ် ၁၇ အနုညာတစီရင်ခြင်း**

၁၇-၀၁ **"စီးတီးမင်း"** နှင့် **"မန်းစည်ပင်"** တို့အကြား စာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်ပါက ရေးဦးစွာနှစ်ဦးနှစ်ဘက်အကြား ကောင်းမွန်မျှတသော ပြေလည်မှုရရှိရေးအတွက် ညှိနှိုင်းခြင်းဖြင့် ပြေလည်အောင် ဆောင်ရွက်ကြရမည်။

၁၇-၀၂ နှစ်ဦးနှစ်ဘက်ကြား အငြင်းပွားမှုကို ပြေလည်စွာ မဖြေရှင်းနိုင်ပါက ထိုအငြင်းပွားမှု ကို အနုညာတနည်းအားဖြင့် ပြည်ထောင်စု မြန်မာနိုင်ငံ မန္တလေးမြို့တွင် ဖြေရှင်းရ မည်။ အနုညာတခုံသမာဓိ လူကြီးတစ်ဦးစီကို တစ်ဘက်ဘက်စီက ခန့်ထားပြီး ထို ပြဿနာကို ဖြေရှင်းစေကာမူ မပြီးပြတ်ပါက ခုံသမာဓိလူကြီးနှစ်ဦးက နောက်ဆုံးအဆင့်ခုံ သမာဓိလူကြီးတစ်ဦး (Umpire) ကို နှစ်ဦးသဘောတူ ရွေးချယ်ပြီးဆုံးဖြတ်စေရမည်။ ထိုနောက်ဆုံးအဆင့် ခုံသမာဓိလူကြီး၏ အဆုံးအဖြတ်သည် အပြီးသတ်ဖြစ်စေရမည်။ အနုညာတခုံဖြင့် ဆောင်ရွက်ရာတွင် ၁၉၄၄ ခုနှစ်၊ အနုညာတအက်ဥပဒေ (၁၉၄၄ ခုနှစ် မြန်မာအက်ဥပဒေအမှတ်-၁၄) ပြဋ္ဌာန်းချက်များနှင့်အညီဆောင်ရွက်ရမည်။

အပိုဒ် ၁၈ **စာပေးစာယူပြုရန် လိပ်စာများ**

"စီးတီးမင်း" နှင့် "မန်းစည်ပင်" တို့အကြား စာဆက်သွယ်ခြင်း၊ အကြောင်းကြားစာပေး ပို့ခြင်းများကို အောက်ပါလိပ်စာများသို့ လိပ်မူရမည်။

| (၁) "မန်းစည်ပင်" | (၂) "စီးတီးမင်း" |
| --- | --- |
| ဥက္ကဋ္ဌ<br>မန္တလေးစည်ပင်သာယာရေးကော်မတီ<br>မန္တလေးမြို့ | ဒါရိုက်တာ<br>စီးတီးမင်းကုမ္ပဏီလီမိတက်<br>အမှတ် ၄၀၂၊ ကန္နားလမ်း၊<br>ကြည့်မြင်တိုင်မြို့နယ်၊ ရန်ကုန်မြို့ |

အပိုဒ် ၁၉ **အထွေထွေ**

၁၉-၀၁ ဤစာချုပ်ပါ ပြဋ္ဌာန်းချက်များသည် မြေငှားရမ်းခြင်း သဘောတူစာချုပ်ပါ ပြဋ္ဌာန်းချက်များနှင့် ညီညွတ်မှုမရှိပါက ဤစာချုပ်ပါ ပြဋ္ဌာန်းချက်များက လွှမ်းမိုးစေရမည်။

၁၉-၀၂ နောက်ဆက်တွဲ ပုံစံများ၊ မြေပုံများ၊ စာရင်းများအားလုံးသည် ဤစာချုပ်၏ တစ်ပုံး တစ်ပေါင်းတည်းသော အစိတ်အပိုင်းများ ဖြစ်စေရမည်။

၁၉-၀၃ ဤစာချုပ်သည် နှစ်ဦးနှစ်ဘက်တို့၏သဘောပေါက်နားလည်မှုများပါရှိပြီး ဤအကြောင်းအရာများ အပေါ် ယခင်ကအချင်းချင်းသဘောတူညီချက်များ၊ နားလည်မှုများအားလုံးကိုလည်းလွှမ်းမိုးသည်။

အထက်ပါအချက်အလက်များကို နားလည်သဘောပေါက်သိရှိသည့်အတိုင်း နှစ်ဦးနှစ်ဘက် သက်ဆိုင်သူများသည် အောက်တွင် မိမိ၏လက်မှတ်နှင့် တံဆိပ်များကို အထက်ပါ ဖော်ပြ ရေးသားထားသည့် ရက်၊ လနှင့် ခုနှစ်တွင် သဘောတူကြောင်း ရေးထိုးရိုက်နှိပ်ကြပါသည်။

ဦးကျော်မှု
မန္တလေးစည်ပင်သာယာရေးကော်မတီ

ဒါရိုက်တာ
စီးတီးမင်းကုမ္ပဏီလီမိတက်

အသိသက်သေများ

(၁)

လက်မှတ် [illegible]
အမည် [illegible]
ရာထူး [illegible]
လိပ်စာ [illegible]
[illegible]

(၂)

လက်မှတ် [illegible]
အမည် [illegible]
ရာထူး [illegible]
လိပ်စာ [illegible]
[illegible]

မန္တလေးမြို့ စည်ပင်သာယာရေးကော်မတီ

နှင့်

# ဗီးတီးမင်း ကုမ္ပဏီလီမိတက်

တို့အကြား

ချုပ်ဆိုသော

# မြေငှားရမ်းခြင်း သဘောတူစာချုပ်

မန္တလေးမြို့ စည်ပင်သာယာမရေး ကော်မတီနှင့်
မိုးတိမ်းမင်း ကုမ္ပဏီလီမိတက်
တို့အကြား ချုပ်ဆိုသော
မြေငှားရမ်းခြင်း သဘောတူစာချုပ်

မာတိကာ

# မြေငှားရမ်းခြင်း သဘောတူစာချုပ်

❖❖❖❖❖❖❖❖❖❖❖❖❖❖❖❖❖❖❖❖

ဤမြေငှားသဘောတူစာချုပ်ကို မန္တလေးမြို့တွင် တစ်ထောင့်ကိုးရာကိုးဆယ့်ခုနှစ် ခုနှစ်၊ မေ လ၊ ၂၀ ရက်နေ့တွင် ပြည်ထောင်စု မြန်မာနိုင်ငံတော်၊ ဝန်ကြီးချုပ်ရုံးလက်အောက်ရှိ ပြည်ထောင်စုမြန်မာနိုင်ငံ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထားသည့် **"မန္တလေးမြို့ စည်ပင်သာယာရေးကော်မတီ"** (နောင်တွင် အခြားကွဲပြားသော အဓိပ္ပာယ်ဖော်ပြချက်ရှိသည်မှတစ်ပါး ၎င်း၏ ဆက်ခံသူများ၊ ဥပဒေအရ ခွင့်ပြုထားသော လွှဲအပ်ခြင်း ခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များ အပါအဝင် **"အငှားချထားသူ"** ဟု ရည်ညွှန်းသည်။)က တစ်ဖက်

နှင့်

အခြားတစ်ဖက်တွင် ရန်ကုန်မြို့၊ ကြည့်မြင်တိုင်မြို့နယ်၊ ကမ်းနားလမ်း အမှတ် (၄၀၂)တွင် မှတ်ပုံတင်ရုံးတည်ရှိသော ပြည်ထောင်စုမြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းထားသည့် ကုမ္ပဏီလီမိတက်တစ်ခုဖြစ်သော **စီးတီးမင်း ကုမ္ပဏီလီမိတက်** (နောင်တွင် အခြားကွဲပြားသော အဓိပ္ပာယ်ဖော်ပြချက်ရှိသည်မှ တစ်ပါး ၎င်း၏ ဆက်ခံသူများ၊ ဥပဒေအရ ခွင့်ပြုထားသော လွှဲအပ်ခြင်းခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များ အပါအဝင် "အငှားချထားခြင်းခံရသူ" ဟု ရည်ညွှန်းသည်။) တို့သည် အောက်ဖော်ပြပါ ဆန္ဒသဘောထားချက်များ ရှိကြသည်။

(က) "အငှားချထားခြင်းခံရသူ" သည် မန္တလေးမြို့၊ ချမ်းအေးသာစံမြို့နယ်၊ ၇၇လမ်းနှင့် ၇၈လမ်း၊ ၃၁လမ်းနှင့် ၃၄လမ်းအကြားရှိ မီးရထားအိမ်ရာတွင် မြေငှားရမ်း၍ အဆောက်အအုံများ ဆောက်လုပ်နိုင်ရန်အတွက် အောက်ပါအတိုင်း ဆောင်ရွက်ပါသည်။

(၁) အထပ် (၁၆) ထပ်ရှိသော ဟိုတယ်တည်ဆောက်မှုလုပ်ငန်းတွင် ကျပ်သိန်းပေါင်း ၁၅၀၀ (ကျပ်သိန်း တစ်ထောင့်ငါးရာတိတိ) နှင့် US$၁၅သန်း (ဒေါ်လာ တစ်ဆယ့်ငါးသန်းတိတိ) ဖြင့် သော်လည်းကောင်း၊

(၂) အထပ် (၅)ထပ်ရှိသော Plaza တည်ဆောက်မှုလုပ်ငန်းတွင် ကျပ်သိန်းပေါင်း ၁၂၅၀ (ကျပ်သိန်းတစ်ထောင်နှစ်ရာ ငါးဆယ် တိတိ) နှင့် US$၁၂.၅ သန်း (ဒေါ်လာ တစ်ဆယ့်နှစ်သန်း ငါးသိန်းတိတိ)

(၃) အထပ် (၈)ထပ်ရှိသော Shopping Centre & Condominium တည်ဆောက်မှုလုပ်ငန်းတွင် ကျပ်သိန်းပေါင်း ၁၂၅၀ (ကျပ်သိန်း တစ်ထောင်နှစ်ရာငါးဆယ် တိတိ) နှင့် US$ ၁၂.၅ သန်း (ဒေါ်လာ တစ်ဆယ့်နှစ်သန်းငါးသိန်းတိတိ) ဖြင့် သော်လည်းကောင်း၊

(၄) အထပ် (၉)ထပ်ရှိသော Offices & Apartments တည်ဆောက်မှုလုပ်ငန်းတွင် ကျပ်သိန်းပေါင်း ၁၀၀၀ (ကျပ်သိန်းတစ်ထောင်တိတိ) နှင့် US$ ၁၀သန်း (ဒေါ်လာတစ်ဆယ်သန်း တိတိ) ဖြင့်သော်လည်းကောင်း တည်ဆောက်သွားမည်ဖြစ်၍ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏ ကျပ်သိန်းပေါင်း ၅၀၀၀ (ကျပ်သိန်းငါးထောင် တိတိ) နှင့် US$ ၅၀သန်း (ဒေါ်လာ ငါးဆယ်သန်းဆယ်တိတိ) ကို အကုန်အကျခံ၍ တည်ဆောက်သွားမည် ဖြစ်ပါသည်။

(ခ) "အငှား ချထားခြင်းခံရသူ"က ယင်းမြေ ၁၅.၄ ဧကအတွက် မြေအသုံးချခွင့် (Land Use Premium) အဖြစ် ကျပ်သိန်းပေါင်း ၄၆၀၀ (ကျပ်သိန်းလေးထောင့်ခြောက်ရာတိတိ) ကို "အငှား ချထားသူ" သို့ ပေးသွင်းရမည်ဖြစ်ရာ မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည့်နေ့တွင် Land Use Premium ပေးသွင်းရမည့်ငွေ၏ တစ်ဝက်ကို ပေးသွင်းရမည်ဖြစ်ပြီး ကျန်တစ်ဝက်ကို စာချုပ်ချုပ်ဆိုပြီးသည့်နေ့မှစ၍ (၆)လ မှ (၈)လအတွင်း ပေးသွင်းသွားမည် ဖြစ်ပါသည်။

(ဂ) “အငှားချထားသူ” သည် အဆိုပါ မြေပိုင်ဆိုင်ခွင့်နှင့်စပ်လျဉ်း၍ တရားဝင်ပိုင်ဆိုင်ခွင့်ရှိကြောင်း အာမခံလျက် ယင်းမြေကို ပြည်ထောင်စုမြန်မာနိုင်ငံတွင် ဖြစ်ပေါ်တိုးတက်သော လုပ်ငန်းများ ထွန်းကားရေးအတွက် အသုံးချစေရန် ဆန္ဒရှိပါသည်။

(ဃ) “အငှားချထားသူ” နှင့် “အငှားချထားခြင်းခံရသူ” တို့သည် ဤမြေငှားရမ်းခြင်း သဘောတူစာချုပ်ကို ချုပ်ဆိုရန် တရားဝင်အခွင့်အာဏာများ ရှိကြပါသည်။

ဤမြေငှားရမ်းခြင်း သဘောတူစာချုပ်က အောက်ပါအချက်အလက်များကို သက်သေခံပါသည်။

## ၁။ သဘောတူစာချုပ်၏ အပိုင်းအခြား

(က) “အငှားချထားခြင်းခံရသူ” က ဤစာချုပ်နောက်ပိုင်းတွင် ဖော်ပြပါရှိသော ငှားရမ်းခ ပေးချေခြင်းနှင့် ကတိအာမခံချက်များ တာဝန်ယူခြင်းတို့ကို ထောက်ထားလျက် “အငှားချထားသူ”က ပူးတွဲဖော်ပြထားသည့် မြေပုံ (၁၅ . ၄)ဧက ကျယ်ဝန်းသည့်မြေကို အထူးအားဖြင့် မြေအောက်သယံဇာတများ၊ ဓာတ်သတ္တုများ၊ ရတနာများရှိသော ဖော်ပြပါမြေ၏အတွင်း၊ အောက်နှင့် အဝန်းအပိုင်းများမှတစ်ပါး အခြားအခွင့် အရေးများ၊ ခံစားခွင့်များနှင့် အဆွယ်အပွားများ၊ အခွင့်အရေးများ အပါအဝင်တို့ကို “အငှားချထားခြင်းခံရသူ”အား လုပ်ငန်းစတင်သည့်နေ့မှ နှစ်ပေါင်း (၃၀)ကာလအထိ ငှားရမ်းပါသည်။ နှစ်ပေါင်း (၃၀)ကာလ ကုန်ဆုံးပြီးနောက် နှစ်ဖက်သဘောတူညီလျှင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ထောက်ခံချက်ဖြင့် အစိုးရအဖွဲ့က ခွင့်ပြုပါက ထပ်တိုး (၅)နှစ်ကာလ (၃)ကြိမ် ထပ်မံငှားရမ်းပါမည်။

(ခ) စာချုပ်သက်တမ်းကုန်ဆုံးသောအခါတွင် ၎င်းနေ့မှစ၍ (၁၅)ရက်အတွင်း ငှားရမ်းမြေကွက်နှင့်တကွ အဆောက်အအုံအားလုံးနှင့် ဆက်စပ်ပတ်သက်နေသော ပစ္စည်းအားလုံးတို့ကို အဖိုးစားနားမရှိဘဲ အပြည့်ပြည့်ဆိုင်ရာ အဆင့်မီအတိုင်း မွမ်းမံထားရှိပြီး ကောင်းမွန်စွာ ပုံမှန်အသုံးပြုနိုင်သည့် အခြေအနေအတိုင်း “အငှားချထားခြင်းခံရသူ” က “အငှားချထားသူ” ထံသို့ လွှဲပြောင်းပေးရမည်။

(ဂ) စာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်ငှားရမ်းလိုပါက စာချုပ်သက်တမ်း မကုန်ဆုံးမီ ၃လ (သုံးလ)အတွင်း “အငှားချထားသူ” ၏ သဘောတူညီချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆက်လက်လုပ်ဆောင်နိုင်သည်။

၂။ မြေငှားရမ်းခနှင့် ပေးချေမှု သတ်မှတ်ချက်

(က) "အငှားချထားခြင်းခံရသူ" က "အငှားချထားသူ" ထံသို့ ပေးချေရမည့် နှစ်စဉ်ငှားရမ်းခမှာ ဟိုတယ်လုပ်ငန်းအတွက် ပေးချေရမည့် နှစ်စဉ်ငှားရမ်းခမှာ ကျပ်ငွေဖြင့်ရရှိသည့် စုစုပေါင်း ဝင်ငွေ (gross income in kyats)၏ ၅% (ငါးရာခိုင်နှုန်း) နှင့် ညီမျှသော ကျပ်ငွေ (သို့မဟုတ်) ကျပ်သိန်း ၁၅၀ (ကျပ်သိန်း တစ်ရာ့ငါးဆယ်တိတိ) တို့အနက် များရာကို ပေးရမည့်အပြင် အမေရိကန် ဒေါ်လာဖြင့် ရရှိသည့် စုစုပေါင်းဝင်ငွေ (gross income in US dollras)၏ ၅% (ငါးရာခိုင်နှုန်း)ကိုလည်း ပေးရမည်။

(ခ) "အငှားချထားခြင်းခံရသူ" က "အငှားချထားသူ" ထံသို့ ကျန်လုပ်ငန်းများဖြစ်သည့် ပလာဇာ (Plaza)၊ ရုံးခန်းနှင့် လူနေအိမ်ခန်း (Offices & Apartments)၊ ဈေးဆိုင်ခန်းနှင့် အရောင်းပြခန်းများ (Shopping Centre and Condominium)လုပ်ငန်းများအတွက် ပေးချေရမည့် နှစ်စဉ်ငှားရမ်းခမှာ ငှားရမ်းနိုင်သောဧရိယာ (Net Rentable Area)၏ တစ်စတုရန်းမီတာလျှင် မြန်မာကျပ်ငွေဖြင့် ငှားရမ်းပါက ကျပ် ၆၀၀/- (ကျပ်ခြောက်ရာတိတိ) နှုန်းဖြင့်လည်းကောင်း၊ အမေရိကန် ဒေါ်လာငွေဖြင့် ငှားရမ်းပါက ၆ဒေါ်လာ (ခြောက်ဒေါ်လာ တိတိ) နှုန်းဖြင့်လည်းကောင်း ပေးချေရမည်။

(ဂ) အဆိုပါ ပလာဇာ (Plaza)၊ ရုံးခန်း နှင့် လူနေအိမ်ခန်း (Offices & Apartments)၊ ဈေးဆိုင်ခန်းနှင့် အရောင်းပြခန်းများ (Shopping Centre and Condominium)လုပ်ငန်းများအတွက် အကယ်၍ ငှားရမ်းရရှိခြင်း မရှိသောကြောင့် အရှုံးပေါ်ပေါက်ခဲ့ပါက နိုင်ငံတော်မှ တာဝန်ပေးသည့် စာရင်းစစ် အဖွဲ့ဖြင့် စစ်ဆေးပြီး၊ အဆိုပါစာရင်းစစ်အစီရင်ခံစာအရ အရှုံးပေါ်ပေါက်ကြောင်း မှန်ကန်သည်ဟု တွေ့ရှိရပါက အဆိုပါစာရင်းစစ်ဆေးသော ကာလအတွက် ငှားရမ်းပေးချေခြင်းမှ ကင်းလွတ်ခွင့်ပြုရန် ဖြစ်သည်။ အရှုံးပေါ်ပေါက်ခြင်းမရှိပါက အထက်ပါ အပိုဒ်၂(က) နှင့် (ခ)တို့တွင် သတ်မှတ်ချက် အတိုင်း ပေးချေရမည်။

(ဃ) "အငှားချထားခြင်းခံရသူ" သည် စာချုပ်ချုပ်ဆိုပြီး လက်ရှိအဆောက်အအုံဟောင်းများ ရွှေ့ပြောင်းပေးပြီးသည့်နေ့မှစ၍ (၄၈)လအတွင်း (၁၆)ထပ်ရှိသော ဟိုတယ်၊ (၅)ထပ်ရှိသော Plaza၊ (၈)ထပ်ရှိသော Shopping Centre & Condominiumနှင့် (၉)ထပ်ရှိသော Offices & Apartmentsအဆောက်အအုံများကို အပြီးအစီး တည်ဆောက်ပြီး ဖွင့်လှစ်နိုင်ရမည်။ အကယ်၍ မဖွင့်လှစ်နိုင်ပါက ဖွင့်လှစ်နိုင်ဘိသကဲ့သို့ (၄၈)လပြည့်သည့်နေ့မှစ၍ သတ်မှတ်သည့် နှစ်စဉ်ငှားရမ်းခငွေဖြစ်သော ဟိုတယ်လုပ်ငန်းအတွက် ကျပ်သိန်း ၁၅၀ (ကျပ်သိန်းတစ်ရာ့ငါးဆယ်တိတိ) နှုန်းထားအတိုင်း ပေးချေရမည်။

ပလာဇာ (Plaza)၊ ရုံးခန်းနှင့် လူနေအိမ်ခန်း (Offices & Apartments)၊ ဈေးဆိုင်ခန်းနှင့် အရောင်းပြခန်းများ (Shopping Centre and Condominium) လုပ်ငန်းများ အတွက်လည်း နှစ်စဉ်ငှားရမ်းခဖြစ်သော ငှားရမ်းနိုင်သော ဧရိယာ (Net Rentable Area)၏ တစ်စတုရန်းမီတာလျှင် မြန်မာကျပ်ငွေဖြင့် ငှားရမ်းပါက ကျပ် ၆၀၀/- (ကျပ်ခြောက်ရာတိတိ) နှုန်းဖြင့်လည်းကောင်း၊ အမေရိကန်ဒေါ်လာဖြင့် ငှားရမ်းပါက အမေရိကန်ဒေါ်လာ ၆ ဒေါ်လာ (ခြောက်ဒေါ်လာတိတိ)ကို လည်းကောင်း ပေးသွင်းရမည်။

(င) အထက်ပါ အပိုဒ် ၂-၁၁တွင် ပါရှိသော စုစုပေါင်းဝင်ငွေ (Gross Income) ဆိုသည်မှာ -

(က) အခန်းများ ငှားရမ်း၍ ရရှိသည့်ဝင်ငွေများ၊

(ခ) ခန်းမကြီးနှင့် အခြားဟိုတယ်လုပ်ငန်းများမှရရှိသည့် ဝင်ငွေများ၊

(ဂ) စားသောက်ဆိုင်နှင့် အဖျော်ယမကာလုပ်ငန်းများမှ ရောင်းရသည့် ဝင်ငွေများ၊

(ဃ) ဝန်ဆောင်မှုလုပ်ငန်းအားလုံးမှရရှိသည့် ဝင်ငွေများ၊

(င) ဧည့်သည်များမှ ရရှိသော ပြန်ပေးရန်မလိုသည့် စပေါ်ငွေများ၊

(စ) ဟိုတယ်လုပ်ငန်းဆောင်ရွက်ခြင်းအတွက် ရရှိသည့် အခြားဝင်ငွေများ။

အဆိုပါတွက်ချက်မှုတွင် အောက်ပါအချက်များပါဝင်ခြင်း မရှိပါ။

(က) ကုန်သွယ်လုပ်ငန်းခွန်၊

(ခ) ဧည့်သည်များသို့ ပြန်အမ်းရမည့် ငွေများကို စုစုပေါင်းဝင်ငွေတွင် ထည့်သွင်းတွက်ချက်ပြီးပါက နုတ်ပယ်ရန်၊

(ဂ) စာရင်းကာလနှင့် မသက်ဆိုင်သည့် ကြိုတင်ရရှိသော ဝင်ငွေများ။

(စ) အဆောက်အအုံ ငှားရမ်းခများကို နှစ်စဉ်တွက်ချက်နိုင်ရေးအတွက် "အငှားချထားခြင်းခံရသူ" က လုပ်ငန်းများ၏ အရပ်ရပ်ဝင်ငွေကို လုပ်ငန်းများ ဖွင့်လှစ်ပြီးသည့်နောက် ဘဏ္ဍာရေးနှစ်အလိုက် ဘဏ္ဍာရေးနှစ်ကုန်ဆုံးပြီးနောက် (၃)လအတွင်း ရေးဆွဲ၍ "အငှားချထားသူ"အား အတည်ပြုပေးရမည်။

(ဆ) သတ်မှတ်ထားသော အဆောက်အအုံငှားရမ်းခများ ပေးသွင်းရေးအတွက် "အငှားချထားခြင်းခံရသူ" က "အငှားချထားသူ"ထံသို့ အတည်ပြုပေးပို့ တင်ပြချက်များ အပေါ် အခြေပြု၍ "အငှားချထားသူ" မှ ပေးသွင်းရန် အကြောင်းကြားလာသော ငွေများကို (၁)လအတွင်း "အငှားချထားခြင်းခံရသူ" က ပေး ဆောင်ရမည်။

(ဆ) အပိုဒ် ၂ (က)နှင့် (ခ)ပါအတိုင်း ဘဏ္ဍာရေးနှစ်ကုန်ဆုံးပြီးနောက် (၃)လအတွင်း "အငှားချထားသူ" ၏ ဌာနတွင်း စာရင်းစစ်အဖွဲ့နှင့် နိုင်ငံတော်မှတာဝန်ပေးသည့် စာရင်းစစ်အဖွဲ့တို့မှ အပြီးသတ် စစ်ဆေးပြီး စာရင်းများရရှိလာသည့်အခါတွင် တစ်လအတွင်း အပြီးသတ် ပေးချေမှုပြုရမည်။

(ဇ) အကယ်၍ အပိုဒ် (၂) (ဂ)ပါအတိုင်း သတ်မှတ်ကာလကုန်ဆုံးသည့်အခါတွင် ငှားရမ်းခများကို မပေးချေနိုင်ပါက ကျော်လွန်သည့် ရက်တိုင်းအတွက် တစ်ရက်လျှင် ပေးသွင်းရမည့်ငွေ၏ ၀.၁၅% ကို ဒဏ်ကြေးအဖြစ် ပေးဆောင်ရမည်။

(ဈ) အပိုဒ် ၂(က)နှင့် (ခ)ပါ ငှားရမ်းခများကို (၅)နှစ်တစ်ကြိမ် နှစ်ဦးနှစ်ဖက် ညှိနှိုင်း၍ ၁၅% ထက် မပိုသောနှုန်းအတွင်း ညှိနှိုင်းပြင်ဆင်သွားရမည်။

(ည) မြေငှားရမ်းခကို အစိုးရအဖွဲ့၏ ညွှန်ကြားချက်နှင့်အညီ (၅)နှစ်တစ်ကြိမ် ပြင်ဆင်သတ်မှတ်ခွင့်ရှိသည်။

၃။ **မြေငှားရမ်းခြင်း သဘောတူစာချုပ်၏ အကျိုးသက်ရောက်မှုနှင့်ကာလ**

(က) ဤ "မြေငှားရမ်းခြင်း သဘောတူစာချုပ်" သည် ဤစာချုပ်အပေါ်တွင် နှစ်ဖက်သော "အငှားချထားသူ" က "အငှားချထားခြင်းခံရသူ" များ လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်စေရမည်။

(ခ) ငှားရမ်းခြင်း၏ နှစ် (၃၀)ကာလကို အဆောက်အအုံများ အားလုံးပြီးစီးပြီး လုပ်ငန်းများ စတင် ဖွင့်လှစ်သည့်ရက်မှစ၍ ရေတွက်ရမည်။

(ဂ) ငှားရမ်းမှု နှစ် ၃၀ (သုံးဆယ်) ပြည့်သောနေ့တွင် အဆိုပါဟိုတယ်နှင့် Plaza., Shopping Centre & Condominium, Offices & Apartmentsအဆောက်အအုံများတွင် ရင်းနှီးမြှုပ်နှံမှုထားရှိပြီးသည့် မရွှေ့မပြောင်းနိုင်သော ပစ္စည်းများအားလုံးကို မည်သည့်အဖိုးစားနားမျှမယူဘဲ ကောင်းမွန်စွာ ပြုပြင်ထိန်းသိမ်းထားရှိသည့် အခြေအနေအတိုင်း "အငှားချထားခြင်းခံရသူ"က "အငှားချထားသူ" အား လွှဲပြောင်းပေးရမည်။

(ဃ) ငှားရမ်းမှုကာလကုန်ဆုံးပြီးနောက် ဆက်လက်လုပ်ကိုင်လိုပါက စာချုပ်သက်တမ်း မကုန်မီ အနည်းဆုံး ၃လ (သုံးလ) ကြိုတင်၍ ငှားရမ်းလိုသည့်ကာလကို ဖော်ပြ၍ "အငှားချထားသူ" သို့ တင်ပြပြီး "မြေငှားရမ်းခြင်း သဘောတူစာချုပ်အသစ်" ချုပ်ဆို၍ "အငှားချထားသူ" ၏ သဘောတူညီချက်အရ "မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်" ၏ ခွင့်ပြုချက်ဖြင့် ဆက်လက်လုပ်ဆောင်နိုင်သည်။

၄။ **"အငှားချထားခြင်းခံရသူ" ၏ ကတိအာမခံချက်များ**

"အငှားချထားခြင်းခံရသူ" က "အငှားချထားသူ" အား အောက်ပါများအတွက် ဤမြေငှားရမ်းခြင်း သဘောတူစာချုပ်အရ ကတိအာမခံချက်များ ပေးပါသည်။

(က) မြေငှားရမ်းခများကို အထက်အပိုဒ်ခွဲ ၂ (က)နှင့် (ခ)တွင် ပါရှိသည့်အတိုင်း ပေးချေသွားရန်နှင့် မြေခွန်ဌာနသို့ ပေးရန်ရှိသည့် မြေခွန်မှအပ အခြားဝန်ဆောင်မှု အခွန်အခများကို သက်ဆိုင်ရာ တာဝန်ရှိ အာဏာပိုင်အဖွဲ့အစည်းများမှ ကောက်ခံသည့် ပမာဏများအတိုင်း တာဝန်ယူပေးဆောင်သွားရန်။

(ခ) "အငှားချထားခြင်းခံရသူ" ၏ စာဖြင့် သဘောတူညီချက်ရရှိထားသည်မှအပ အငှားချထားသောမြေနေရာအားလုံးကို သော်လည်းကောင်း၊ တစ်စိတ်တစ်ပိုင်းကိုသော်လည်းကောင်း ထပ်ဆင့်ငှားရမ်းခြင်း၊ လွှဲပြောင်းခြင်း သို့မဟုတ် လွှဲအပ်ခြင်း စသည်တို့ကို လုံးဝဆောင်ရွက်ခြင်း မပြုလုပ်ရ။

၅။ **"အငှားချထားသူ" ၏ ကတိအာမခံချက်များ**

"အငှားချထားခြင်းခံရသူ" က ဤငှားရမ်းခြင်း သဘောတူစာချုပ်ပါအတိုင်း ငှားရမ်းခပေးခြင်းနှင့် ၎င်း၏ ကတိအာမခံချက်များကို ဆောင်ရွက်ခြင်းနှင့် နာခံခြင်းတို့ကို လိုက်နာသဖြင့် "အငှားချထားသူ"ကလည်း "အငှားချထားခြင်းခံရသူ"အား အောက်ပါ ကတိအာမခံချက်များ ပေးပါသည်။

(က) "အငှားချထားခြင်းခံရသူ" သည် အငှားချထားသည့် ငှားရမ်းကာလအတွင်း အငှားချထားသောမြေနှင့် အကျုံးဝင်သည့်အရာများကို အေးငြိမ်းချမ်းသာစွာဖြင့် လက်ဝယ်ထားရှိခွင့်ရှိစေရေးအတွက် "အငှားချထားသူ"ကသော်လည်းကောင်း၊ အငှားချထားသူကို ကိုယ်စားပြုသည်ဟု တရားဝင်ဖော်ထုတ်နိုင်သူကသော်လည်းကောင်း ဤမြေငှားရမ်းခြင်း သဘောတူစာချုပ် အတည်ဖြစ်နေသည့်ကာလအတွင်း ဝင်ရောက်စွပ်ဖက်ခြင်း သို့မဟုတ် မည်သည့် ပုံစံသဘာဝအရမဆို အနှောင့်အယှက်ဖြစ်ခြင်းများ မရှိစေရန်။

(ခ) အငှားချထားသူသည် အငှားချထားသောမြေ၊ အဆောက်အအုံနှင့် ပတ်သက်သည့် ပေးဆောင်ရန်ရှိသော မြေခွန်ကို ပေးဆောင်ရမည်။

၆။ **မြေငှားရမ်းခြင်း သဘောတူစာချုပ် ရပ်စဲခြင်း**

(၁) ဤမြေငှားရမ်းခြင်း သဘောတူစာချုပ်ကို အောက်ဖော်ပြပါ အခြေအနေအဖြစ်အပျက် တစ်ရပ်ရပ်ဖြစ်ပေါ်ပါလာက ရပ်စဲနိုင်သည်။

(၁) "အငှားချထားသူ"ကသော်လည်းကောင်း၊ "အငှားချထားခြင်းခံရသူ"က သော်လည်းကောင်း ဤမြေငှားရမ်းခြင်း သဘောတူစာချုပ်ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း (၁၁)၊ ပုဒ်မ (၃၉)နှင့် (၄၀)တို့အရ ရပ်စဲလိုကြောင်း စာဖြင့် (၃)လကြိုတင်၍ အခြားတစ်ဖက်သို့ အကြောင်းကြားလာသောအခါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူညီချက် ရယူ၍သော်လည်းကောင်း၊

(၂) "အငှားချထားခြင်းခံရသူ" သည် ဤမြေငှားရမ်းခြင်း သဘောတူစာချုပ်ချုပ်ဆိုပြီး အဆောက်အအုံ ဟောင်းများဖယ်ရှားပြီးနောက် (၄၈)လအတွင်း ကတိအာမခံချက်များအတိုင်း တည်ဆောက်ပြုပြင်၊ ပြင်ဆင်မွမ်းမံမှုများပြီးစီးအောင် မပြုလုပ်နိုင်ခဲ့လျှင်သော်လည်းကောင်း၊

(၃) "အငှားချထားခြင်းခံရသူ"သည် ဤမြေငှားရမ်းခြင်း သဘောတူစာချုပ်ပါ သဘောတူညီချက်များကို ဆောင်ရွက်ရန် သို့မဟုတ် လိုက်နာရန်ပျက်ကွက်လျှင်ထိုပျက်ကွက်ခြင်းများအတွက် (၆)လအတွင်း ခိုင်လုံသော အကြောင်းပြချက်များ မတင်ပြနိုင်လျှင်သော် လည်းကောင်း၊

(ခ) အကယ်၍ ရပ်စဲခြင်း အထမြောက်ပါက "အငှားချထားသူ" သည် ဤမြေငှားရမ်းခြင်း သဘောတူ စာချုပ်တွင် ပါဝင်သောပစ္စည်းများအားလုံးနှင့် စာချုပ်အရ တည်ဆောက်ပြုပြင်၊ ပြင်ဆင်မွမ်းမံခြင်း ပြုလုပ်ပြီးစီးသည်များအပါအဝင် အားလုံးတို့ကို သိမ်းဆည်းရန်နှင့် လက်ရောက်ပြန်လည်ရယူရန် လုပ်ပိုင်ခွင့်ရှိရမည်။ ငှားရမ်းမြေအပေါ် ပြန်လည်ဝင်ရောက် လက်ရှိထားရုံဖြင့် "အငှားချထားသူ"က "အငှားချထားခြင်းခံရသူ" ထံမှ ငှားရမ်းခများ တောင်းဆိုရယူခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

(ဂ) သက်ဆိုင်ရာဥပဒေပြဋ္ဌာန်းချက် တစ်ရပ်ရပ်ကို ဖောက်ဖျက်မှုကြောင့် လုပ်ငန်းများ လုံးဝရပ်ဆိုင်းခြင်း ခံရပါက အငှားချထားသည့်မြေနှင့် မြေပေါ်ရှိ အငှားချထားခြင်းခံရသူမှ ဆောက်လုပ်ခဲ့သည့် အဆောက်အအုံပစ္စည်းများ အားလုံးအပေါ်တွင် တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုများ အပါအဝင် အားလုံးတို့ကို "အငှားချထားသူ" ထံသို့ အဖိုးစားနားမယူဘဲပြန်လည်အပ်နှံခြင်း ပြုရမည်။ ဤမြေတွင် အဆောက်အအုံငှားရမ်းခြင်း သဘောတူစာချုပ်သည် ထိုအခါတွင် ရပ်ဆိုင်း၍ အဆုံးသတ်သွားရမည်။

၇။ **ကြိုတင်စည်းကမ်း သတ်မှတ်ချက်များ**

ဤမြေငှားရမ်းခြင်း သဘောတူစာချုပ်ကို ဆောင်ရွက်ခြင်းနှင့် အကောင်အထည်ဖော်ခြင်းတို့သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ အဖွဲ့အစည်းများထံမှ လိုအပ်သည့် သဘောတူညီချက်၊ ခွင့်ပြုချက်နှင့် လုပ်ဆောင်ခွင့်ပြုချက်များ ရရှိပြီးမှုအပေါ်တွင် တည်ရှိပါသည်။

၈။ **အနုညာတ စီရင်ဆုံးဖြတ်ခြင်း**

ဤမြေငှားရမ်းခြင်းသဘောတူစာချုပ်များမှ အငြင်းပွားမှုများ ပေါ်ပေါက်လျှင် ယင်းအငြင်းပွားမှုကို နှစ်ဦးနှစ်ဖက်စလုံးမှ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ပြေလည်စွာ ဖြေရှင်းရမည်။ အကယ်၍ ထိုကဲ့သို့ ဖြေရှင်း၍မရနိုင်ပါက အနုညာတညှိနှိုင်းမှုဖြင့် ဖြေရှင်းရမည်။ အနုညာတလုပ်ထုံးလုပ်နည်းများသည် အနုညာတဥပဒေပါ ပြဋ္ဌာန်းချက်များ (မြန်မာနိုင်ငံအက်ဥပဒေအမှတ် ၄/၁၉၄၄) အရသာ ဖြစ်ရမည်။ အနုညာတ ဖြေရှင်းဆုံးဖြတ်ရန် နေရာမှာ မန္တလေးမြို့၊ ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင်သာ ဖြစ်ရပါမည်။

## ၉။ ဓာတ်သတ္တုအရင်းအမြစ်များနှင့် ရတနာများ

ဤမြေငှားရမ်းသဘောတူစာချုပ်အရ ငှားရမ်းမှုပြုလုပ်ထားသောမြေနေရာတွင် မြေငှားရမ်းခြင်းသဘောတူစာချုပ်ကာလအတွင်း မမျှော်မှန်းဘဲ ဓာတ်သတ္တုအရင်းအမြစ်များ၊ သဘာဝတွင်းထွက်သယံဇာတပစ္စည်းများနှင့် အခြားသော တွင်းထွက်များ တူးဖော်တွေ့ရှိလာလျှင် အငှားချထားသူက ထိုပစ္စည်းများကိုပိုင်ဆိုင်ရမည်ဖြစ်ပြီး အငှားချထားသူသည် သက်ဆိုင်ရာ နိုင်ငံတော်အစိုးရအဖွဲ့အစည်းများထံသို့ အကြောင်းကြားတင်ပြလွှဲပြောင်းခွင့်ရှိစေရမည်။

## ၁၀။ သဘောတူစာချုပ်ကို ပြန်လည်ဆန်းစစ်ခြင်း

ဤမြေငှားရမ်း သဘောတူစာချုပ်တွင် မဖော်ပြမိခဲ့သော အချက်အလက် သို့မဟုတ် အခြေအနေတစ်ရပ်ပေါ်ပေါက်ပြီး စာချုပ်ကိုပြင်ဆင်ရန်လည်း လိုအပ်ပါက နှစ်ဦးနှစ်ဖက်တို့သည် သဘောတူစာချုပ်၏ အချက်အလက်များနှင့် သတ်မှတ်ချက်များကို လိုအပ်ချက်အရ ပြင်ဆင်ရန် ညှိနှိုင်းကြရမည်။

## ၁၁။ စာချုပ်တစုတပေါင်းတည်း အစိတ်အပိုင်း

ဤမြေငှားသဘောတူစာချုပ်သည် ယင်း၏နောက်ဆက်တွဲများနှင့်တကွ မန္တလေးမြို့စည်ပင်သာယာရေးကော်မတီနှင့် စီးတီးမင်းကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုထားသော "တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်းစာချုပ်" ၏ တစ်စုတစ်ပေါင်းတည်း အစိတ်အပိုင်းတစ်ရပ် ဖြစ်စေရမည်။

ဖော်ပြပါ အချက်အလက်များကို သိရှိသဘောပေါက် နားလည်ပြီးသည့်အလျောက် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် တို့သည် ဤသဘောတူ စာချုပ်အထက်တွင် ဖော်ပြထားသော ခုနှစ်၊ လနှင့်နေ့ရက်တို့တွင် မိမိတို့၏ လက်မှတ်နှင့် တံဆိပ်များကို အောက်၌ ရိုက်နှိပ်ရေးထိုးသဘောတူညီကြပါသည်။

**အငှားချထားသူ**

လက်မှတ် -

အမည် - ဗိုလ်မှူးကြီး စိန်ဝင်းအောင်

ရာထူး - ဥက္ကဋ္ဌ

လိပ်စာ - မန္တလေးမြို့ စည်ပင်သာယာရေးကော်မတီ

**အသိသက်သေ (၁)**

လက်မှတ် -

အမည် - ဦးဖေဆင်

မန္တလေးမြို့စည်ပင်သာယာရေးကော်မတီ

**အငှားချထားခြင်းခံရသူ**

လက်မှတ် -

အမည် -

ရာထူး - ဒါရိုက်တာ

လိပ်စာ - စီးတီးမင်းကုမ္ပဏီလီမိတက်

**အသိသက်သေ**

လက်မှတ် -

အမည် - ဦး...ဝင်း

ဒါရိုက်တာ

မန္တလေးမြို့

မန္တလေးမြို့စည်ပင်သာယာရေးကော်မတီနှင့် စီးတီးမင်းကုမ္ပဏီလီမိတက် တို့အကြား
( ၂၀.၅.၉၇ ) နေ့တွင် ချုပ်ဆိုခဲ့သော
မြေငှားရမ်းခြင်းသဘောတူစာချုပ်ကို ပြင်ဆင်သည့်သဘောတူစာချုပ်

၁၉၉၈ ခုနှစ်၊ ဖေဖော်ဝါရီလ (၂၀) ရက်၊

ဤမြေငှားသဘောတူစာချုပ်ကို ပြင်ဆင်သည့်စာချုပ်ကို မန္တလေးမြို့တွင် ပြည်ထောင်စု မြန်မာနိုင်ငံတော်
ဝန်ကြီးချုပ်ရုံးလက်အောက်ရှိ ပြည်ထောင်စုမြန်မာနိုင်ငံ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထားသည့်

**မန္တလေးမြို့**

**စည်ပင်သာယာရေးကော်မတီ**

(နောင်တွင် အခြားကွဲပြားသော အဓိပ္ပါယ်ဖော်ပြချက် ရှိသည့်မှတစ်ပါး ယင်း၏ဆက်ခံသူများ၊ ဥပဒေအရ ခွင့်ပြုထားသော လွှဲအပ်ခြင်းခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များ အပါအဝင် အငှားချထားသူဟု ရည်ညွှန်းသည်။)က တစ်ဖက်

နှင့်

အခြားတဖက်တွင် မန္တလေးမြို့၊ ချမ်းအေးသာစံမြို့နယ်၊ ၇၇လမ်းနှင့် ၇၈လမ်းကြား၊ ၃၀လမ်းနှင့် ၃၃ လမ်းကြားတွင် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းထားသော

**စီးတီးမင်းကုမ္ပဏီလီမိတက်**

(နောင်တွင် အခြားကွဲပြားသော အဓိပ္ပါယ်ဖော်ပြချက် ရှိသည့်မှတစ်ပါး ယင်းဆက်ခံသူများ၊ ဥပဒေ အရ ခွင့်ပြုထားသော လွှဲအပ်ခြင်းခံရသူများနှင့် တရားဝင်ကိုယ်စားလှယ်များ၊ အပါအဝင် အငှားချထားခြင်း ခံရသူဟု ရည်ညွှန်းသည်။) တို့သည် (၂၀.၅.၉၇ ) နေ့က ''မန်းစည်ပင်'' နှင့် ''စီးတီးမင်း'' တို့အကြား ချုပ်ဆိုခဲ့သည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ကို ပြင်ဆင်ရန် နှစ်ဖက်သဘောတူချုပ်ဆိုကြပါသည်။

အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သည် မူလမြေငှားရမ်းခြင်းသဘောတူစာချုပ်တွင်ဖော်ပြထားသော စည်းမျဉ်းစည်းကမ်းများကို အောက်ပါအတိုင်း ပြင်ဆင်ရန်သဘောတူကြပါသည်။

၁။ မူလမြေငှားရမ်းခြင်း စာချုပ်၏နိဒါန်းပိုင်းတွင် ဖော်ပြပါရှိသော စာသားများကို ပါယ်ဖျက်၍ အောက်ပါအတိုင်း အစားထိုးပြင်ဆင်ရန် သဘောတူကြပါသည်။

(က) ''အငှားချထားခြင်းခံရသူ'' သည် မန္တလေးမြို့၊ ချမ်းအေးသာစံမြို့နယ်၊ ၇၇လမ်းနှင့် ၇၈လမ်းကြား၊ ၃၀လမ်းနှင့် ၃၃လမ်းကြား ရှိမီးရထားအိမ်ယာတွင် မြေငှားရမ်း၍ အဆောက်အအုံများ၊ဆောက် လုပ်နိုင်ရန်အတွက် အောက်ပါအတိုင်း ဆောင်ရွက်ပါမည်။

(၁) အထပ် (၈) ထပ်ရှိသော ဟိုတယ်တည်ဆောက်မှုလုပ်ငန်းတွင် ကျပ်သန်းပေါင်း ၁၈၇.၇၈ (ကျပ်သန်းပေါင်း တစ်ရာရှစ်ဆယ့်ခုနစ် ဒသမ ခုနစ်ရှစ်) နှင့် US$ ၁.၃၁ သန်း (အမေရိကန်ဒေါ်လာ တစ် ဒသမ သုံးတစ်သန်းတိတိ) ဖြင့် လည်းကောင်း၊

(၂) အထပ်(၅)ထပ်နှင့်(၄)ထပ်ရှိ Plaza တည်ဆောက်မှုလုပ်ငန်းတွင် ကျပ်သန်းပေါင်း ၂၂၄.၆၄ (ကျပ်သန်းပေါင်း နှစ်ရာနှစ်ဆယ့်လေး ဒသမ ခြောက်လေးတိတိ) နှင့် US$ ၁.၅၇သန်း (အမေရိကန်ဒေါ်လာ တစ် ဒသမ ငါးခုနစ်သန်းတိတိ) ဖြင့်လည်းကောင်း၊

(၃) အထပ် (၄) ထပ်ရှိသော Super Market & Office တည်ဆောက်မှု လုပ်ငန်းတွင် ကျပ်သန်းပေါင်း ၄၆၇.၀၆ (ကျပ်သန်းပေါင်း လေးရာခြောက်ဆယ့်ခုနစ် ဒသမ သုညခြောက်တိတိ) နှင့် US$ ၃.၂၇သန်း (အမေရိကဒေါ်လာ သန်းပေါင်းသုံး ဒသမ နှစ်ခုနစ်တိတိ) ဖြင့်လည်းကောင်း၊

(၄) အထပ်(၈)ထပ်ရှိသော Condominium တည်ဆောက်မှုလုပ်ငန်းတွင် ကျပ်သန်းပေါင်း ၁၃၂.၃၂ (ကျပ်သန်းပေါင်း တစ်ရာသုံးဆယ့်နှစ် ဒသမ သုံးနှစ်တိတိ) နှင့် အမေရိကန်ဒေါ်လာ ၀.၉၃သန်း (အမေရိကန် ဒေါ်လာ သုည ဒသမ ကိုးသုံးသန်းတိတိ) ဖြင့်လည်းကောင်း၊

တည်ဆောက်သွားမည်ဖြစ်၍ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ပမာဏ ကျပ်သန်းပေါင်း ၁၀၁၁.၈ (ကျပ်သန်းပေါင်းတစ်ထောင်တစ်ဆယ့်တစ် ဒသမရှစ်တိတိ) နှင့် US$ ၇.၀၈သန်း (အမေရိကန်ဒေါ်လာ ခုနစ်ဒသမ သုညရှစ်သန်းတိတိ)ကို အကုန်အကျခံ၍ တည်ဆောက်သွားမည် ဖြစ်ပါသည်။

(ခ) "အငှားချထားခြင်းခံရသူ" က ယင်းမြေ ၁၂.၁၈၈၁ ဧကအတွက် မြေအသုံးချခွင့် (Land Use Premium)အဖြစ်ကျပ်သိန်းပေါင်း ၃၆၂၂ (ကျပ်သိန်းပေါင်း သုံးထောင့်ခြောက်ရာနှစ်ဆယ့်နှစ်တိတိ) ကို "အငှားချထားသူ"သို့ ပေးသွင်းရမည်ဖြစ်သည်။ ပေးသွင်းမှုကို မူလမြေငှားစာချုပ်ကို ချုပ်ဆိုပြီးနောက် ပေးသွင်း ရမည်ဖြစ်သည်။

၂။ မူလစာချုပ်အပိုဒ် ၁ (က)တွင် ဖော်ပြပါရှိသော မြေဧရိယာအကျယ်အဝန်းနှင့်စပ်လျဉ်း၍ အောက်ပါ အတိုင်းပြင်ဆင်ရန် သဘောတူကြပါသည်။

"အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ"တို့သည် မူလမြေငှားရမ်းခြင်း သဘောတူစာချုပ် အပိုဒ်(၁) သဘောတူစာချုပ်၏ အပိုင်းအခြား စာပိုဒ်ခွဲ (က)ပါ "ပူးတွဲဖော်ပြထားသည့်မြေပုံ (၁၅.၄) ဧက" ဆိုသည့်စကားရပ်အစား "ပူးတွဲဖော်ပြထားသည့်မြေပုံ (၁၂.၁၈၈၁) ဧက" ဟုပြင်ဆင်ရန် သဘောတူကြပါသည်။

၃။ မူလစာချုပ်ပါ အပိုဒ် ၂ (က) နှင့် ၂ (ခ)ကို အောက်ပါအတိုင်း ပြင်ဆင်အစားထိုးရန် သဘောတူကြ ပါသည်။

၂ (က) "အငှားချထားခြင်းခံရသူ" က "အငှားချထားသူ"ထံသို့ ပေးချေရမည့်နှစ်စဉ်ငှားရမ်းခမှာ ဟိုတယ် လုပ်ငန်းအတွက် ပေးချေရမည့်နှစ်စဉ်ငှားရမ်းခမှာ ကျပ်ငွေဖြင့် ရရှိသည့် စုစုပေါင်းဝင်ငွေ (Gross Income in Kyats) ၏ ၅% (ငါးရာခိုင်နှုန်း)နှင့် ညီမျှသော ကျပ်ငွေ (သို့မဟုတ်) ကျပ်သိန်း ၆၀ (ကျပ်သိန်းခြောက်ဆယ် တိတိ) တို့အနက် များရာကိုပေးရမည့်အပြင် အမေရိကန်ဒေါ်လာဖြင့် ရရှိသည့် စုစုပေါင်းဝင်ငွေ (Gross Income in US Dollars)၏ ၅%(ငါးရာခိုင်နှုန်း) ကိုလည်းပေးရမည်။

၂ (ခ) "အငှားချထားခြင်းခံရသူ" က "အငှားချထားသူ" ထံသို့ ကျန်လုပ်ငန်းများဖြစ်သည့် ပလာဇာ (Plaza)၊ အဆင့်မြင့်ဈေး နှင့် ရုံးခန်း (Super Market & Office)၊ အဆင့်မြင့်လူနေခန်း (Condomimium) လုပ်ငန်းများအတွက် ပေးချေရမည့် နှစ်စဉ်ငှားရမ်းခမှာ ငှားရမ်းနိုင်သော ဧရိယာ (Net Rentable Area) ၏ တစ်စတုရန်းမီတာလျှင် မြန်မာကျပ်ငွေဖြင့် ငှားရမ်းပါက ကျပ် ၆၀၀၊- (ကျပ်ခြောက်ရာတိတိ) နှုန်းဖြင့်လည်းကောင်း၊ အမေရိကန်ဒေါ်လာဖြင့် ငှားရမ်းပါက ၆ ဒေါ်လာ (ခြောက်ဒေါ်လာတိတိ) နှုန်းဖြင့်လည်းကောင်း ပေးချေရမည်ဖြစ်ပါသည်။

ဤမြေငှားစာချုပ်ကို ပြင်ဆင်သည့်စာချုပ်သည် မူလ (၂၀-၅-၉၇) နေ့က အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ ချုပ်ဆိုခဲ့သော စာချုပ်၏တစ်စိတ်တစ်ဒေသ ဖြစ်စေရမည်။ ဤပြင်ဆင်သည့် အထက်ဖော်ပြပါ အချက်များမှအပ ကျန်မူလစာချုပ်ပါ ပြဋ္ဌာန်းသဘောတူညီချက်များသည် အပြောင်းအလဲမရှိပဲ ဆက်လက်အသက်ဝင်စေရမည်။

ဤပြင်ဆင်ချက်စာချုပ်ကို နှစ်ဖက်လက်မှတ်ရေးထိုးပြီးနောက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ သဘောတူညီချက်ရရှိသည့်အခါ အတည်ဖြစ်စေရမည်။

အထက်ဖော်ပြပါ ပြင်ဆင်ချက်များကို သိရှိနားလည်သဘောပေါက်ပြီးသည့်အလျောက် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် ဤသဘောတူစာချုပ်အထက်တွင် ဖော်ပြထားသော ခုနှစ်၊ လနှင့် နေ့ရက်တို့တွင် မိမိတို့၏ လက်မှတ်နှင့် တံဆိပ်များကို အောက်၌ရိုက်နှိပ်ရေးထိုး သဘောတူညီကြပါသည်။

အငှားချထားသူ

လက်မှတ်...............

အမည် ဗိုလ်မှူးကြီး စိန်ဝင်းအောင်

ရာထူး ဉက္ကဋ္ဌ

လိပ်စာ မန္တလေးစည်ပင်သာယာရေးကော်မတီ

အငှားချထားခြင်းခံရသူ

လက်မှတ်...............

အမည် ဦး ကာဇီမောင် (ခ) ဂဒီရာ ၅၉

ရာထူး အုပ်ချုပ်မှုဒါရိုက်တာ

လိပ်စာ စီးတီးမင်းကုမ္ပဏီလီမိတက်

CITY MAN CO. LTD. MDY

အသိသက်သေများ

(၁)

လက်မှတ် ...................

အမည် ဦးဖေခင်

ရာထူး ကွန်ပျူတာ ... ရေးမှူး

လိပ်စာ မန္တလေးမြို့ စည်ပင်သာယာရေးကော်မတီ

(၂)

လက်မှတ် ...................

အမည် ဦး ခင်ဝင်း ..........

ရာထူး ဒါရိုက်တာ (ငွေစာရင်း ရေးမှူး)

လိပ်စာ က-မြောက် (၅၄) ၃၁/၈၉ ... ပါဝင်

မန္တလေး

| | | |
|---|---|---|
| <u>မြေလျော့နည်းမှုအတွက် ရှင်းလင်းချက်</u> | | <u>ဧက</u> |
| ၁။ မူလစာချုပ်ပါငှားရမ်းသည့်ဧရိယာ | | ၁၅.၄၇၈၉ |
| <u>ပေါင်း</u> | | |
| ၂။ ၇၈လမ်း ဟိုးချဲ့ခြင်းကြောင့် တိုးလာသည့်ဧရိယာ | | ၀.၁၂၆၄ |
| ပေါင်း | | ၁၅.၆၀၅၃ |
| <u>နုတ်</u> | | |
| ၃။ ရတနာပုံ ဈေးဘက်ခြမ်းဧရိယာတွင် ပါဝင်သောဧရိယာ | ၀.၄၉၀၇ | |
| ၄။ ရွှေဘုံသာဘုရားမြေ | ၀.၉၀၈၈ | |
| ၅။ ၃၃လမ်း ချဲ့ခြင်းကြောင့်လျော့နည်းခြင်း (၃၄ပေ×၄၇၅ပေ) | ၀.၃၇၀၆ | |
| ၆။ မြေမှတ်တမ်းအရဧရိယာနှင့် အမှန်တိုင်းတာချက်အရဧရိယာတို့ကွာခြား လျော့နည်းခြင်း | ၀.၃၅၁၅ | |
| ၇။ ၃၁လမ်းအသစ်ဖေါက်၍လျော့နည်းခြင်း (၄၀ပေ×၄၆၇ပေ) | ၀.၄၂၈၈ | |
| ၈။ ၃၂လမ်းအသစ်ဖေါက်၍လျော့နည်းခြင်း (၈၀ပေ×၄၇၂ပေ) | ၀.၈၆၆၈ | ၃.၄၁၇၂ |
| အမှန်အသုံးပြုသည့်မြေဧရိယာ | | ၁၂.၁၈၈၁ |

ဥက္ကဋ္ဌ (ကိုယ်စား)
( ဇေခင်၊ တွဲဘက်အတွင်းရေးမှူး )

pပြည်ထောင်စုမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

**ရုံးအမှတ်(၃၂)၊ နေပြည်တော်**

Fax -95-67-406333 ဖုံး-၀၆၇-၄၀၆၁၃၉၊၄၀၆၁၆၁

စာအမှတ်၊ရက-၁/ မ-၉၀၂ / ၂၀၁၀ (၂၁၅၈)၊

ရက်စွဲ၊၂၀၁၀ခုနှစ်၊ ဖေဖော်ဝါရီလ ၉ ရက်။

သို့/

ဝန်ကြီးချုပ်ရုံး၊

ပြည်ထောင်စုမြန်မာနိုင်ငံတော်။

အကြောင်းအရာ။ ။ မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီနှင့် BOT စာချုပ် ချုပ်ဆို လုပ်ကိုင်လျှက် ရှိသော စီးတီးမင်း ကုမ္ပဏီ လီမိတက်၏ အခြေအနေနှင့် စပ်လျဥ်း၍ သဘောထား လမ်းညွှန်ချက် ချမှတ်ပေးပါရန်ကိစ္စ။

ရည် ညွှန်း ချက် ။ ။ (၁) မန္တလေးမြို့တော် စည်ပင် သာယာရေး ကော်မတီ ၏ (၆-၁၁-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၁၀၀၁/ ၁၀/ တဆရ (၈၇၁)၊

(၂) စီးတီးမင်း ကုမ္ပဏီ လီမိတက် ၏ (၃-၉-၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၇၆၆/ငရခ - စီးတီးမင်း/ ၂၀၀၉-၂၀၁၀။

၁။ မြန်မာနိုင်ငံသားများ ဖြစ်ကြသည့် ဦးမြင့်ဝင်းနှင့် ဦးမင်းလွင်တို့ ပူးပေါင်းလျှက် စီးတီးမင်း ကုမ္ပဏီလီမိတက်ကို တည်ထောင်ကာ မန္တလေးမြို့တော်စည်ပင်သာယာရေး ကော်မတီ (MCDC) ပိုင် (၇၇)လမ်းနှင့် (၇၈)လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့ရှိ မြေ (၁၅.၄၀) ဧကကို ငှားရမ်း၍ (၁၆)ထပ် ဟိုတယ် (၁)လုံး၊ (၅)ထပ် ပလာဇာ (၁)လုံး၊ (၉)ထပ် ရုံးခန်းနှင့် လူနေအိမ်ခန်း (၁)လုံးနှင့် (၈)ထပ် ဈေးဆိုင်ခန်းနှင့်ကွန်ဒိုမီနီယံများတည်ဆောက်ငှားရမ်းခြင်း လုပ်ကိုင်ဆောင်ရွက်ရန် ရင်းနှီးမြှုပ်နှံသူ ဦးမြင့်ဝင်း အမည်ဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ ခွင့်ပြုမိန့် အမှတ်၊ မနသ- ၀၂၁/ ၉၆ (၂၉-၅-၁၉၉၆) ကို ထုတ်ပေးခဲ့ပါသည်။ MCDC နှင့် စီးတီးမင်း ကုမ္ပဏီ လီမိတက်တို့ အကြား BOT သဘောတူစာချုပ်နှင့် မြေငှားသဘောတူစာချုပ်တို့ကို (၁၀-၁၀-၁၉၉၆) နေ့တွင် ချုပ်ဆိုခဲ့ပါသည်။ (ပူးတွဲ - ၁)

၂။ အဆိုပါ စာချုပ်များတွင် ပါရှိသော အချက်များကို အောက်ပါအတိုင်း ပြင်ဆင် ပြောင်းလဲခွင့်ပြုပါရန် စီးတီးမင်းကုမ္ပဏီလီမိတက်မှ အဆိုပြုလွှာဖြင့် ပြင်ဆင်တင်ပြချက်အပေါ် ဝန်ကြီးချုပ်ရုံးမှ ဖော်ပြခဲ့ပါသည်။ (ပူးတွဲ - ၂)

(က) စာချုပ်ပါ မြေ (၁၅.၄၀) ဧကတွင် လမ်းဖောက်လုပ်ထားသည့် မြေနှင့် ရွှေဘုံသာဘုရားမြေတို့ ပါရှိနေသည့် အတွက် လုပ်ငန်း စတင်ရန် မြေကွက်ကို ကွင်းဆင်းတိုင်းတာသည့်အခါ (၁၂.၁၈၈၁) ဧက သို့ လျော့နည်းသွား သဖြင့် မြေအသုံးချမှု ပရီမီယံကြေး မူလ ကျပ် (၄၆၀) သန်းကို ပြင်ဆင်သတ်မှတ်ခွင့်ပြုပါရန်၊

(ခ) မူလအဆောက်အဦများ၏ ပုံစံဒီဇိုင်းများ ပြင်ဆင်ခွင့်ပြုပါရန်၊

(ဂ) မူလဒါရိုက်တာ အဖွဲ့ဝင်များ (အစား) ဒါရိုက်တာ အဖွဲ့ဝင် (၆)ဦး အထိ တိုးချဲ့ဖွဲ့စည်းခွင့်ပြုပါရန်၊

(ဃ) ငှားရမ်းခများကို ပြင်ဆင်ပေးသွင်းခွင့်ပြုပါရန် တို့ကို တင်ပြခဲ့ပါသည်။

၃။ အထက်ပါ တင်ပြချက်များကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂/ ၉၈) (၂၃-၁-၁၉၉၈)အစည်းအဝေးတွင် တင်ပြခဲ့ပါသည်။ အစည်းအဝေးမှဆုံးဖြတ်ချက်အရ ရင်းနှီးမြှုပ်နှံသူ ဦးတင်မောင် (ခ) လီစန်းရှင် အမည်ဖြင့် မြေ (၁၂.၁၈၈၁) ဧကတွင် (၈)ထပ် ဟိုတယ် (၁)လုံး၊ (၅)ထပ် ပလာဇာ (၆)လုံးနှင့် (၄)ထပ် ပလာဇာ (၂)လုံး၊ (၄)ထပ် ရုံးခန်းနှင့် Super Market (၂)လုံးနှင့် (၈)ထပ် ကွန်ဒိုမီနီယံ (၂)လုံး တည်ဆောက် ငှားရမ်းခြင်း လုပ်ငန်း ဆောင်ရွက်ရန် မူလထုတ်ပေးခဲ့သည့် ကော်မရှင် ခွင့်ပြုမိန့် အမှတ်၊ မနသ- ဝ၂ဝ/ ၉၆ ကို (၆-၄-၁၉၉၈) ရက်စွဲဖြင့် ပြင်ဆင်ထုတ်ပေးခဲ့ပါသည်။ (ပူးတွဲ - ၃)

၄။ ပြင်ဆင်ထုတ်ပေးခဲ့သည့် ကော်မရှင် ခွင့်ပြုမိန့် အရ ငှားရမ်းခများကို ကုမ္ပဏီ စတင်တည်ထောင်သည့်နေ့ဖြစ်သော (၂၅-၂-၉၇) နေ့မှစ၍ (၄၈)လ အတွင်း အဆောက်အဦများကို အပြီးတည်ဆောက်ပြီး ဖွင့်လှစ်ရန်နှင့် မဖွင့်လှစ်နိုင်ပါက (၄၈)လ ပြည့်သည့်နေ့မှ စ၍ သတ်မှတ်ထားသည့် နှစ်စဉ် ငှားရမ်းခများကို ပေးသွင်းရမည် ဖြစ်ပြီး မြေ (၁၂.၁၈၈၁) ဧက အတွက် မြေအသုံးချမှု ပရီမီယံကြေး ကျပ် (၃၆၂) သန်း ပေးသွင်းရပါမည်။

၅။ အဆိုပါကော်မရှင်ခွင့်ပြုမိန့်အရဆောင်ရွက်လျက်ရှိသော လုပ်ငန်းနှင့်စပ်လျဉ်း၍ MCDC မှ အောက်ပါအတိုင်း တင်ပြလာပါသည်။ (ပူးတွဲ - ၄)

(က) စီးတီးမင်းကုမ္ပဏီလီမိတက်သည် MCDC သို့ မြေငှားခနောက်ဆုံးကြွေးကျန် ကျပ် (၄၇.၈၂) သန်းနှင့် (၃၀-၉-၂၀၀၉) နေ့ အထိ မြေငှားခဒဏ်ကြေး ကြွေးကျန် ကျပ် (၉၄.၇၁) သန်း စုစုပေါင်း ကျပ် (၁၄၂.၅၃) သန်း ပေးသွင်းရန် ကျန်ရှိပါသည်။

(ခ) စီးတီးမင်းကုမ္ပဏီမှ တိုက်ခန်း (၅၁)ခန်း အတွက် အခွန်ငွေကျပ် (၂၇.၁၀) သန်းနှင့် (၂၀၀၀ - ၂၀၀၁) မှ (၂၀၀၅ - ၂၀၀၆) ခုနှစ် အထိ အခွန်ငွေ ကျပ် (၃)သန်း တို့ကို ပြည်တွင်း အခွန်များ ဦးစီးဌာနသို့ ပေးသွင်းပြီး ဖြစ်ပါသည်။

(ဂ) MCDC နှင့် စီးတီးမင်းကုမ္ပဏီတို့ (၂၀-၅-၁၉၉၇) နေ့တွင် ချုပ်ဆိုခဲ့သော BOT သဘောတူစာချုပ်ပါ စာပိုဒ် အချို့ကို (၂၀-၂-၁၉၉၈) နေ့တွင် ပြင်ဆင်ချုပ်ဆိုခဲ့ပါသည်။ (ပူးတွဲ - ၅)

(ဃ) အဆိုပါ စာချုပ်၏ အပိုဒ်(၂.၀၄)တွင် "စီးတီးမင်းသည် စီးတီးမင်းကုမ္ပဏီလီမိတက် စတင်တည်ထောင်သည့် နေ့ ဖြစ်သော (၂၅-၂-၉၇) နေ့မှ စ၍ (၄၈)လ အတွင်း အဆောက်အဦးများကို အပြီးအစီး တည်ဆောက်ပြီးဖွင့်လှစ်နိုင်ရမည်။ အကယ်၍ မဖွင့်လှစ်နိုင်ပါက ဖွင့်လှစ်ဘိသကဲ့သို့ (၄၈)လ ပြည့် သည့်နေ့မှစ၍ သတ်မှတ်သည့် နှစ်စဉ် ငှားရမ်းခနှုန်းထားအတိုင်းပေးချေရမည်" ဟု ဖော်ပြထားပါသည်။

(င) ထို့ပြင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပြန်ပေးခဲ့သည့် (၆-၄-၉၈)ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်၊ ၂၄/၉၈ (မနသ)၏ အပိုဒ် (၇)တွင် "စီးတီးမင်း ကုမ္ပဏီလီမိတက်သည် ကုမ္ပဏီ စတင် တည်ထောင်သည့် နေ့ဖြစ်သော (၂၅-၂-၉၇) နေ့မှစ၍ (၄၈)လအတွင်း အဆောက်အဦများကို အပြီးတည်ဆောက်ပြီး ဖွင့်လှစ်နိုင်ရမည်။ မဖွင့်လှစ်နိုင်ပါက (၄၈)လ ပြည့်သည့်နေ့မှ စ၍ သတ်မှတ်ထားသည့် နှစ်စဉ် ငှားရမ်းခများကို ပေးသွင်းရမည်" ဟု ဖော်ပြထားပါသည်။

(စ) သဘောတူစာချုပ်အရ စီးတီးမင်းကုမ္ပဏီ၏ စီးပွားဖြစ်လုပ်ငန်းများ စတင်ရမည့်နေ့မှာ (၂၅-၂-၁၉၉၇) နေ့မှ (၄၈)လ ပြည့်မြောက်သည့်နေ့ဖြစ်သော (၂၅-၂-၂၀၀၁)နေ့မှစ၍ မြေငှားရမ်းခများကို စတင်ပေးချေပြီး စီးပွားဖြစ် စတင်သည့် နေ့အဖြစ် သတ်မှတ်ရမည် ဖြစ်ပါသည်။

၆။ MCDC သို့ ငှားရမ်းခပေးချေရန်နှင့် စပ်လျဉ်း၍ စီးတီးမင်းကုမ္ပဏီလီမိတက်မှ အောက်ပါ အတိုင်း တင်ပြခဲ့ပါသည် -(ပူးတွဲ - ၆)

(က) ကော်မရှင်ခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်လျက်ရှိသော ချမ်းအေးမန္တလာ အိမ်ရာစီမံကိန်း၏ ငှားရမ်းခကို (၂၅-၂-၁၉၉၇) နေ့မှ (၄၈)လ ပြည့်သည့် (၂၅-၂-၂၀၀၁) နေ့မှ စတင် ကောက်ခံလာပါသည်။

(ခ) MCDC နှင့် ကုမ္ပဏီတို့ (၂၅-၂-၁၉၉၇) နေ့တွင် ချုပ်ဆိုခဲ့သော သဘောတူစာချုပ် အား ပြင်ဆင် လက်မှတ်ရေးထိုးသည့် (၂၀-၂-၁၉၉၈) နေ့မှ (၄၈)လ ပြည့်သည့် (၂၀-၂-၂၀၀၂) နေ့မှ စတင်၍ ငှားရမ်းခများ ပေးသွင်းခွင့်အတွက် ကော်မရှင်သို့ ထောက်ခံတင်ပြ ပေးပါရန် ကုမ္ပဏီမှ MCDC သို့ တင်ပြခဲ့ပါသည်။

(ဂ) MCDC သည် ဖြစ်ရပ်မှန်ကို ထောက်ခံတင်ပြခြင်းမပြုခဲ့ဘဲ ကုမ္ပဏီ၏ တင်ပြစာကို သာ ကော်မရှင်သို့ ပေးပို့ခဲ့ပြီး ကော်မရှင် ခွင့်ပြုမိန့်သည် အစိုးရအဖွဲ့မှ အတည်ပြု ပေးထားသောကြောင့် စာချုပ်ပါ သတ်မှတ်ချက် အတိုင်းသာ ဆောင်ရွက်ရန် ရှိပါ ကြောင်း၊ ကော်မရှင်၏အမိန့်ကြော်ငြာစာအမှတ် (၂၄/၉၈)(မနသ)၏ အပိုဒ် (၇)တွင် လည်း ဖော်ပြထားပြီး ဖြစ်ကြောင်း၊ ထို့ကြောင့် နှစ်စဉ် ငှားရမ်းခကို (၂၀-၂-၂၀၀၂) နေ့မှ စတင်ရေတွက်ခွင့် မပြုကြောင်းကို ပြန်ကြားခဲ့ပါသည်။

(ဃ) စီးတီးမင်း ကုမ္ပဏီသည် MCDC က (၂၅-၂-၂၀၀၁) နေ့မှ စတင် တွက်ချက် တောင်းခံသော <u>တစ်နှစ်စာ</u> မြေငှားရမ်းခများကိုသာ <u>ချန်လှပ်</u>၍ နှစ်စဉ်ပေးသွင်းရန် တာဝန်ရှိသည့် မြေငှားရမ်းခများကို MCDC သို့ ပေးသွင်းလျှက်ရှိပါသည်။

(င) နှစ်စဉ် ငှားရမ်းခကို (၂၀-၂-၂၀၀၂) နေ့မှ စတင်ရေတွက်ခွင့်ပြုပါရန် တင်ပြရသည့် အကြောင်းရင်းကို အောက်ပါအတိုင်း တင်ပြအပ်ပါသည် -

(၁) ဦးမြင့်ဝင်း အမည်ဖြင့် ရရှိခဲ့သည့် ကော်မရှင် ခွင့်ပြုမိန့် [မနသ - ၀၂၁/ ၉၆ (၂၉-၅-၉၆)] ပါ လုပ်ငန်းကို ၁၉၉၆ ခုနှစ်၊ ဩဂုတ်လတွင် စီးတီးမင်းကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာဟု ဆိုသူ ဒေါက်တာမင်းလွင်က မန္တလေးမြို့နေ စီးပွားရေး လုပ်ငန်းရှင် (၁၆)ဦး (ဦးတင်မောင် အပါအဝင်) ကို ကျပ်သိန်းပေါင်း (၆၀၇၀) ဖြင့် လိမ်လည်ရောင်းချခဲ့ပါသည်။

(၂) (၃၀-၄-၉၇) နေ့တွင် နောက်ဆုံးပေးသွင်းရန် ကျန်ငွေကျပ်သိန်းပေါင်း (၁၀၀၀) ကျော် ကို ပေးသွင်းတော့မည့် အချိန်ရောက်မှ လိမ်လည်ရောင်းချထားခြင်းကို သိရှိကြပြီး MCDC သို့ သွားရောက်စုံစမ်းသောအခါ ဒေါက်တာမင်းလွင်သည် MCDC သို့ ပေးသွင်းပြီး ဖြစ်ရမည့် မြေအသုံးချခွင့် (LUP) ကျပ်သိန်းပေါင်း (၄၆၀၀) အနက်မှ ကျပ် သိန်း (၂၀၀၀) ကိုသာ ပေးသွင်းထားကြောင်း သိရှိရ ပါသည်။

CITY MAN

(၃) သို့အတွက် လုပ်ငန်းရှင်များက အဆင်ပြေချောမွေ့စေရန် စီးတီးမင်း ကုမ္ပဏီလီမိတက်ကို ဒေါက်တာ မင်းလွင်က လွှဲပြောင်းပေးရန် အတွက် ဒေါက်တာ မင်းလွင်သို့ ကျပ် သိန်း (၅၀၀) ကို လည်းကောင်း၊ ဒေါက်တာမင်းလွင်က MCDC သို့ ပေးသွင်းရန် ကျန်ရှိသည့် ကျန်ရှိသည့် မြေအသုံးချခွင့် (LUP) ကျပ်သိန်း (၂၀၀၀) ကျော်ကို လည်းကောင်း၊ ဦးတင်မောင်နှင့် အဖွဲ့က တာဝန်ယူ ပေးသွင်း ခဲ့ရပါသည်။

(၄) ယင်းကဲ့သို့ လိုက်နာဆောင်ရွက်ပြီးနောက် (၁၉၉၇) ခုနှစ်၊ မေလအတွင်းတွင် ဦးတင်မောင်နှင့်အဖွဲ့သည် စီးတီးမင်းကုမ္ပဏီလီမိတက်ကို တရားဝင် မှတ်ပုံတင်ခဲ့ပါသည်။

(၅) ထို့နောက် ယခင်မြို့တော်ဝန်နှင့် တွေ့ဆုံဆွေးနွေး လမ်းညွှန်ချက်အရ စီးတီးမင်းကုမ္ပဏီလီမိတက်သည်MCDC နှင့် ဒေါက်တာမင်းလွင်တို့ ယခင် ချုပ်ဆိုခဲ့သောစာချုပ်ပါ အကောင်အထည်ဖော်ရန် မဖြစ်နိုင်သည့် အဆောက်အဦ ပုံစံ ဒီဇိုင်း များ နှင့် အမှန်တကယ်အသုံးပြုမည့်မြေ (၁၂.၁၈၈၁) ဧက ကို ပြင်ဆင်ကာ ဝန်ကြီးချုပ်ရုံးမှတစ်ဆင့် ဤကော်မရှင်သို့ အဆိုပြုချက် အသစ်ကို တင်ပြခဲ့ပါသည်။

(၆) ကော်မရှင်မှ ခွင့်ပြုမိန့်အမှတ်၊ မနသ - ၀၂၁/ ၉၆ ကို (၆-၄-၉၈) နေ့စွဲဖြင့် ပြင်ဆင် ထုတ်ပေးခဲ့ပါသည်။

(၇) ကော်မရှင်၏ ခွင့်ပြုချက် မရရှိမီကပင် MCDC ၏ ညွှန်ကြားချက် အရ (၂၀-၅-၉၇) နေ့တွင် BOT စာချုပ်နှင့် မြေငှားစာချုပ်တို့ကို ပြင်ဆင်သည့် သဘောတူစာချုပ် တို့ကို (၂၀-၂-၉၈) နေ့တွင် MCDC နှင့် စီးတီးမင်းကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုခဲ့ပါသည်။

(၈) ထိုစာချုပ်ချုပ်ဆိုသည့် (၂၀-၂-၉၈) နေ့တွင်ပင် ဒေါက်တာမင်းလွင်နှင့် MCDC တို့ ချုပ်ဆိုခဲ့သည့် ယခင်စာချုပ်ကို လုပ်ထုံးလုပ်နည်းနှင့်အညီ ဘောင်ဝင်ရန်ဟု ဆိုကာ (၂၀-၅-၉၇)ရက်စွဲဖြင့် စီးတီးမင်းကုမ္ပဏီလီမိတက်အား နောက်ကြောင်းပြန် (Back Date) လက်မှတ်ရေးထိုးချုပ်ဆိုပေးရန် MCDC က တောင်းဆိုသဖြင့် ကုမ္ပဏီသည် (၂၀-၅-၉၇) ရက်စွဲဖြင့် BOT စာချုပ်နှင့် မြေငှားရမ်းခြင်းစာချုပ် တို့ကို နောက်ကြောင်းပြန် (Back Date)ဖြင့် လက်မှတ်ရေးထိုး ပေးခဲ့ရပါသည်။

(၉) လက်တွေ့တွင် (၆-၄-၁၉၉၈) နေ့ ကော်မရှင်၏ ခွင့်ပြုချက် ရရှိပြီးမှသာ တည်ဆောက်ရေးလုပ်ငန်းများကို ကုမ္ပဏီမှ စတင်လုပ်ဆောင်နိုင်ခဲ့ပါသည်။

(၁၀)ယခု တည်ဆောက်ရေးကာလကို (၂၅-၂-၉၇) နေ့မှစ၍ (၄၈)လ တွက်ချက်ခြင်းကြောင့် ကုမ္ပဏီ အနေဖြင့် တည်ဆောက်ရေးကာလ (၁)နှစ်ခန့် လျော့နည်းခဲ့ရပါသည်။ လက်တွေ့ လုပ်ငန်းများ မစတင် ရသေးသည့် (၁)နှစ် ကာလကို နောက်ကြောင်းပြန် (Back Date)ဖြင့် ငှားရမ်းခများ ကောက်ခံခြင်းမှာလည်း ကုမ္ပဏီတွင် များစွာနစ်နာမှုပေါ်ပေါက်ရပါသည်။ ထို့ပြင် BOT စာချုပ် နှစ်(၃၀) သက်တမ်းမှာလည်း (၁)နှစ်ခန့်ဆုံးရှုံးခံရသည့်သဘောသက်ရောက်နေပါသည်။

(၁၁)ငှားရမ်းခများကိုလည်း (၂၅-၂-၉၇) နေ့မှ (၄၈)လ ကုန်ဆုံးသည့် (၂၅-၂-၂၀၀၁) နေ့မှစ၍ တွက်ချက် တောင်းခံခြင်း ခံခဲ့ရပါသည်။

(စ) အထက်တွင် တင်ပြခဲ့သည့်အတိုင်း စီးတီးမင်းကုမ္ပဏီလီမိတက်သည် ဒေါက်တာမင်းလွင်အား ကျပ်သိန်း (၅၀၀) ထပ်မံ ပေးခဲ့ရခြင်း၊ ဒေါက်တာမင်းလွင်က MCDC သို့ ပေးသွင်းရန်ကျန်ရှိသည့် မြေအသုံးချခွင့် ငွေကျပ်သိန်း (၂၀၀၀) ကျော် ကိုလည်း စီးတီးမင်းကုမ္ပဏီကစိုက်ထုတ်ပေးသွင်းခဲ့ရခြင်း၊ ကော်မရှင်နှင့် အထက်အဖွဲ့အစည်း အဆင့်ဆင့်တို့သို့ ပြန်လည်တင်ပြ အတည်ပြုချက် ရယူစဉ်ကာလအတွင်း ကုမ္ပဏီ အနေဖြင့် ကျပ်သိန်း (၄၀၀၀) ခန့်ကို နှစ်နှင့်ချီ၍ မြှုပ်နှံခဲ့ရခြင်းတို့ကြောင့် ကုမ္ပဏီတွင် နစ်နာဆုံးရှုံးမှု များစွာ ပေါ်ပေါက်ရပါသည်။

(ဆ) တစ်နှစ်စာ ငှားရမ်းခမှာ MCDC က မြေ(၁၂.၁၈၈၁)ဧက (အစား) မြေ(၁၅.၄၅) ဧကဟု မှားယွင်း တွက်ချက်မှုကြောင့် ပေါ်ပေါက်ခဲ့ရခြင်းဖြစ်၍ ယင်းတစ်နှစ်စာ ငှားရမ်းခ၏ (တစ်)ဝက်ကိုသာ ပေးသွင်းခွင့်ပြုပါရန်နှင့် ဒဏ်ကြေးကို ကောက်ခံခြင်း မပြုပါရန် ကုမ္ပဏီက တင်ပြခဲ့သော်လည်း မြေငှားရမ်းခနှင့် ဒဏ်ကြေးငွေ နှစ်ရပ်ပေါင်း ကျပ် (၁၆၀.၇၆)သန်းကို (၂၁-၈-၂၀၀၉) ရက်နေ့ နောက်ဆုံးထား၍ ပေးသွင်းပါရန် MCDC မှ အကြောင်းကြားလာပါသည်။

(ဇ) သို့ပါ၍ ကုမ္ပဏီအပေါ် မမျှမတ တစ်ဖက်သတ် တောင်းဆိုနေသော ငှားရမ်းခ ကြွေးကျန် ကိစ္စနှင့် မမျှမတ ငွေကြေးများ ကောက်ခံခြင်းကိစ္စ တို့ကို သိရှိနိုင်ပါရန် တင်ပြ ထားပါသည်။

၇။ အထက်ပါ MCDC နှင့် စီးတီးမင်း ကုမ္ပဏီလီမိတက်တို့၏ တင်ပြချက်များအရ မန္တလေး မြို့တော် စည်ပင်သာယာရေး ကော်မတီ (MCDC)နှင့် BOT စာချုပ် ချုပ်ဆို လုပ်ကိုင်လျက်ရှိသော စီးတီးမင်း ကုမ္ပဏီလီမိတက် ၏ အခြေအနေတို့နှင့် စပ်လျဉ်း၍ မန္တလေး မြို့တော် စည်ပင်သာယာရေး ဥပဒေ ပုဒ်မ-၉ အရ အောက်ဖော်ပြပါ အချက်များအပေါ် ဝန်ကြီးချုပ်ရုံး၏ လမ်းညွှန်မှု ခံယူ အပ်ပါသည် -

(က) ပြင်ဆင်ချုပ်ဆိုခဲ့သော BOT စာချုပ် အရ မြေငှားရမ်းခ စတင် ပေးချေရမည့်နေ့ ဖြစ်သော (၂၅-၂-၂၀၀၁)နေ့ကို စီးပွားဖြစ် စတင်သည့်နေ့ဟုသတ်မှတ်သင့်ကြောင်း MCDC မှ တင်ပြချက် [နှင့်] မြေငှားရမ်းခကို (၂၀-၂-၂၀၀၂) နေ့မှ စတင်ပေးချေပြီး စီးပွားဖြစ်နေ့ဟု သတ်မှတ်ပေးပါရန် စီးတီးမင်း ကုမ္ပဏီမှ တင်ပြချက် (၂)ရပ် အပေါ် လမ်းညွှန်မှု ချမှတ်ပေးပါရန်၊

(ခ) မြေငှားရမ်းခကို (၂၅-၂-၂၀၀၁)နေ့မှ စတင်ပေးချေရပါက တစ်နှစ်စာ မြေငှားရမ်းခ (တစ်)ဝက်ကိုသာ ပေးသွင်းခွင့် ပြုပါရန်နှင့် ဒဏ်ကြေးငွေ ကောက်ခံခြင်းမှလည်း ကင်းလွတ်ခွင့် ပေးပါရန် ကုမ္ပဏီမှ တင်ပြ ချက် အပေါ် လမ်းညွှန်မှု ချမှတ်ပေးပါရန်၊

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

[ဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန]

မိတ္တူ- ရုံးလက်ခံ/ မျှောစာတွဲ။

CITY MAN

(၂၄.၁.၉၈) ၂/၉၈ MIC အစ

<u>လျှို့ဝှက်</u>

အကြောင်းအရာ။ ။ <u>စီးတီးမင်းကုမ္ပဏီလီမိတက်မှ တည်ဆောက်လုပ်ဆောင်၊ လွှဲပြောင်းခြင်း ( B.O.T ) သဘောတူစာချုပ်နှင့် မြေငှားစာချုပ်ပါအချက်များကိုပြင်ဆင်ပြောင်းလဲခွင့်ပြုပါရန်တင်ပြခြင်းကိစ္စ။</u>

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ပြည်ထောင်စုမြန်မာနိုင်ငံတော်ဝန်ကြီးချုပ်ရုံးမှမန္တလေးမြို့စည်ပင်သာယာရေးကော်မတီနှင့်စီးတီးမင်းကုမ္ပဏီလီမိတက်တို့အကြား (၁၀-၁၀-၉၆) နေ့တွင်ချုပ်ဆိုခဲ့သော B.O.T သဘောတူစာချုပ်နှင့် မြေငှားသဘောတူစာချုပ်တို့ကိုပြင်ဆင်ရန်ကိစ္စနှင့်ပတ်သက်၍တင်ပြလာပါသည်။ ယင်းတင်ပြချက်ကို (၁၆-၁-၉၈) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ (၂/၉၈) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးသို့တင်ပြခဲ့ရာယင်းအစည်းအဝေးမှ အောက်ပါအတိုင်းဆုံးဖြတ်ခဲ့ပါသည်။

(က) မန်းစည်ပင်နှင့်စီးတီးမင်းကုမ္ပဏီလီမိတက်တို့ချုပ်ဆိုထားသည့် B.O.T စာချုပ်နှင့် မြေငှားစာချုပ်တို့ကို ကုမ္ပဏီဖွဲ့စည်းသည့် (၂၃-၂-၉၇) နေ့နှင့်လိုက်လျောညီထွေဖြစ်ရန်အတွက်ပြင်ဆင်ရန်၊

(ခ) မြေအသုံးချခွင့်ပေးငွေအဖြစ်ကျပ် (၃၆၂.၂) သန်း ပြင်ဆင်တောင်းခံခြင်းနှင့်စပ်လျဉ်း၍ မူလသဘောတူစာချုပ်အရကျပ် (၃၀၂) သန်း ပေးသွင်းပြီးဟုသိရှိရ၍ မန္တလေးမြို့စည်ပင်သာယာရေးကော်မတီမှ သေချာစွာစိစစ်ဆောင်ရွက်ရန်၊

<u>လျှို့ဝှက်</u>

(ဂ) နှစ်စဉ်မြေငှားရမ်းခနှင့်ပတ်သက်၍ဟိုတယ်လုပ်ငန်းနှင့်ကျန်လုပ်ငန်းများကိုမူလစာချုပ်ပါအတိုင်းထားရှိရန်၊ သို့ရာတွင်ဟိုတယ်လုပ်ငန်းအတွက်ကနဦးဆုံးသတ်မှတ်ချက်ကိုစုစုပေါင်းဝင်ငွေ၏(၅)ရာခိုင်နှုန်း(သို့)ကျပ်သိန်း(၁၅၀)အစား၊ စုစုပေါင်းဝင်ငွေ၏(၅)ရာခိုင်နှုန်း(သို့)ကျပ်သိန်း(၆၀)သတ်မှတ်ရန်ဆုံးဖြတ်ခဲ့ပါသည်။

၂။ ထို့ပြင်၎င်းလုပ်ငန်းဆောင်ရွက်ရန်မော်တော်ယာဉ်တင်သွင်းခွင့်နှင့်ပတ်သက်၍တည်ဆောက်ရေးကာလအတွင်း Saloon (၁)စီး၊ Pick-up (၁)စီးနှင့် Truck (၁)စီးတို့ကိုအခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်းစတင်ဆောင်ရွက်ချိန်တွင် Saloon (၁)စီး၊ Pick-up (၁)စီး၊ Truck (၁)စီးတို့ကိုအခွန်အကောက်(၅၀)ရာခိုင်နှုန်းသက်သာခွင့်ဖြင့်လည်းကောင်းတင်သွင်းခွင့်ပြုရန်နှင့်တင်သွင်းမည့်စက်ပစ္စည်းစာရင်းတွင်ဓါတ်လှေခါးများကိုဟိုတယ်(၈)ထပ်အတွက်(၃)စီး၊ Plaza (၆)ခုအတွက်(၆)စီး၊ Condominium (၂)ခုအတွက်(၄)စီး၊ စုစုပေါင်း(၁၃)စီး၊ Television 21" အလုံး(၂၀၀)၊ ဟိုတယ်လုပ်ငန်းအတွက် Mini Bar (၁၅၀)လုံးနှင့် Fridge အကြီးအလုံး(၅၀)၊ Airconditioner 1½ H.P (၁၀၀)လုံး၊ 2 H.P (၁၀၀)လုံးတို့ကိုတင်သွင်းခွင့်ပြုရန်ကော်မရှင်မှဆုံးဖြတ်ခဲ့ပါသည်။

၃။ ယင်းဆုံးဖြတ်ချက်များအရ ပြင်ဆင်ပြီးပြန်လည်တင်ပြလာသော အဆိုပြုချက်နှင့်အတူ B.O.T စာချုပ်ကိုပြင်ဆင်သည့်သဘောတူစာချုပ်(မူကြမ်း)၊ မြေငှားသဘောတူစာချုပ်ကိုပြင်ဆင်သည့်သဘောတူစာချုပ်(မူကြမ်း)နှင့် Loan Agreement (မူကြမ်း)များကို နောက်ဆက်တွဲ(၁)အဖြစ်တင်ပြထားပါသည်။ မူလအဆိုပြုတင်ပြချက်နှင့်ယခုပြင်ဆင်တင်ပြချက်များ၏အဓိကအချက်များနှိုင်းယှဉ်ချက်ကိုပူးတွဲဇယားဖြင့်တင်ပြအပ်ပါသည်။



* ဟ ၂၀/၁/၉၀။

(၂၃.၁.၉၈) ၂/၉၈ MIC [illegible]



အကြောင်းအရာ။ ။ စီးတီးမင်း ကုမ္ပဏီလီမိတက်မှ တည်ဆောက်လုပ်ဆောင်၊ လွှဲပြောင်း ( B.O.T ) သဘောတူစာချုပ်နှင့် မြေငှား စာချုပ်ပါအချက်များကိုပြင်ဆင်ပြောင်းလဲခွင့်ပြုပါရန်တင်ပြခြင်းကိစ္စ။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ပြည်ထောင်စုမြန်မာနိုင်ငံတော်ဝန်ကြီးချုပ်ရုံး မှ မန္တလေး မြို့စည်ပင်သာယာရေး ကော်မတီနှင့်စီးတီး မင်း ကုမ္ပဏီလီမိတက်တို့အကြား ( ၁၀-၁၀-၉၆ ) နေ့တွင်ချုပ်ဆိုခဲ့သော B.O.T သဘောတူစာချုပ်နှင့် မြေငှား သဘောတူစာချုပ်တို့ကိုပြင်ဆင်ရန်ကိစ္စနှင့်ပတ်သက်၍တင်ပြလာပါသည်။ ယင်းတင်ပြချက်ကို ( ၁၆-၁-၉၈ ) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ( ၂/၉၈ ) ကြိမ်မြောက်ကြိုတင်ညှိနှိုင်း အစည်းအဝေး သို့တင်ပြခဲ့ရာယင်းအစည်းအဝေး မှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။

(က) မန်း စည်ပင်နှင့်စီး တီး မင်း ကုမ္ပဏီလီမိတက်တို့ချုပ်ဆိုထားသည့် B.O.T စာချုပ်နှင့် မြေငှား စာချုပ်တို့ကို ကုမ္ပဏီဖွဲ့စည်းသည့် ( ၂၅-၂-၉၇ ) နေ့နှင့်လိုက်လျောညီထွေဖြစ်ရန်အတွက်ပြင်ဆင်ရန်၊

(ခ) မြေအသုံးချခွင့်ပေး ငွေအဖြစ်ကျပ် ( ၃၆၂.၂ ) သန်း ပြင်ဆင်တောင်းခံခြင်းနှင့်စပ်လျဉ်း၍ မူလသဘောတူစာချုပ်အတိုင်းကျပ် ( ၃၀၂ ) သန်း ပေးသွင်းပြီး ဟုသိရှိရ၍ မန္တလေးမြို့စည်ပင်သာယာရေး ကော်မတီမှ သေချာစွာစိစစ်ဆောင်ရွက်ရန်၊

(ဂ) နှစ်စဉ် မြေငှားရမ်းခ နှင့်ပတ်သက်၍ ဟိုတယ်လုပ်ငန်း နှင့်ကျန်လုပ်ငန်း များကို မူလစာချုပ်ပါအတိုင်းထားရှိရန်၊ သို့ရာတွင် ဟိုတယ်လုပ်ငန်း အတွက် အနည်းဆုံး သတ်မှတ်ချက်ကို စုစုပေါင်း ဝင်ငွေ၏ (၅) ရာခိုင်နှုန်း (သို့) ကျပ်သိန်း (၁၅၀) အစား၊ စုစုပေါင်း ဝင်ငွေ၏ (၅) ရာခိုင်နှုန်း (သို့) ကျပ်သိန်း (၆၀) သတ်မှတ်ရန်ဆုံးဖြတ်ခဲ့ပါသည်။

၂။ ထို့ပြင်၎င်းလုပ်ငန်း ဆောင်ရွက်ရန် မော်တော်ယာဉ်တင်သွင်းခွင့် နှင့်ပတ်သက်၍ တည်ဆောက်ရေး ကာလအတွင်း Saloon (၁) စီး၊ Pick-up (၁) စီး နှင့် Truck (၁) စီး တို့ကိုအခွန်အကောက်ကင်း သွင်းခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်း စတင် ဆောင်ရွက်ချိန်တွင် Saloon (၁) စီး၊ Pick-up (၁) စီး၊ Truck (၁) စီး တို့ကိုအခွန်အကောက် (၅၀) ရာခိုင်နှုန်း သက်သာခွင့်ဖြင့်လည်း ကောင်း တင်သွင်း ခွင့်ပြုရန်နှင့်တင်သွင်း မည့်စက်ပစ္စည်း စာရင်းတွင် ဓါတ်လှေခါး များ ကိုဟိုတယ် (၈) ထပ်အတွက် (၃) စီး၊ Plaza (၆) ခုအတွက် (၆) စီး၊ Condominium (၂) ခုအတွက် (၄) စီး၊ စုစုပေါင်း (၁၃) စီး Television 21" အလုံး (၂၀၀)၊ ဟိုတယ်လုပ်ငန်း အတွက် Mini Bar (၁၅၀) လုံး နှင့် Fridge အကြီး အလုံး (၅၀)၊ Airconditioner 1½ H.P (၁၀၀) လုံး၊ 2 H.P (၁၀၀) လုံး တို့ကိုတင်သွင်း ခွင့်ပြုရန် ကော်မရှင်မှဆုံးဖြတ်ခဲ့ပါသည်။

၃။ ယင်း ဆုံးဖြတ်ချက်များ အရ ပြင်ဆင်ပြီး ပြန်လည်တင်ပြလာသော အဆိုပြုချက်နှင့်အတူ B.O.T စာချုပ်ကိုပြင်ဆင်သည့်သဘောတူစာချုပ် (မူကြမ်း)၊ မြေငှားသဘောတူစာချုပ်ကိုပြင်ဆင်သည့်သဘောတူစာချုပ် (မူကြမ်း) နှင့် Loan Agreement (မူကြမ်း) များကို နောက်ဆက်တွဲ (၁) အဖြစ်တင်ပြထားပါသည်။ မူလအဆိုပြုတင်ပြချက်နှင့်ယခုပြင်ဆင်တင်ပြချက်များ၏အဓိကအချက်များ နှိုင်းယှဉ်ချက်ကိုပူးတွဲဇယား ဖြင့်တင်ပြအပ်ပါသည်။



* ၅၂၀/၁/၉၀။

``ပူးတွဲ''

City Man Co., Ltd ၏ မူလအဆိုပြုကင်ပြချက်နှင့် ယခုပြင်ဆင်တင်ပြချက် နှိုင်းယှဉ်ချက်

| စဉ် | အကြောင်းအရာ | မူလအဆိုပြုကင်ပြချက် | ယခုပြင်ဆင်တင်ပြချက် |
|---|---|---|---|
| ၁ | အဆိုပြုလုပ်ငန်း အမျိုးအစား | ဟိုတယ်၊ ပလာဇာ၊ ရုံးခန်းနှင့်လူနေအိမ်ခန်း၊ ဈေးဆိုင်ခန်းနှင့်ကွန်ဒိုမီနီယံတည်ဆောက်၍ငှားရမ်းခြင်းလုပ်ငန်း၊ | ဟိုတယ်၊ ပလာဇာ၊ ရုံးခန်းနှင့်လူနေအိမ်ခန်း၊ ဈေးဆိုင်ခန်းနှင့်ကွန်ဒိုမီနီယံတည်ဆောက်၍ငှားရမ်းခြင်းလုပ်ငန်း၊ |
| ၂ | တည်နေရာ | ၇၇လမ်းနှင့်၇၈လမ်းကြား၊ ၃၁လမ်း ၃၄လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ် မန္တလေးမြို့။ | ၇၇လမ်းနှင့်၇၈လမ်းကြား၊ ၃၀လမ်းနှင့် ၃၃လမ်းကြား၊ ချမ်းအေးသာဇံမြို့နယ်၊ မန္တလေးမြို့။ |
| ၃ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>နိုင်ငံခြားငွေပါဝင်မှု | ကျပ် ၁၃၀၀ သန်း<br>US $ ၅၀သန်း (အပါအဝင်)<br>ထိုင်းနိုင်ငံ Sri-Thai Bank Ltd. မှ ချေးယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုးနှုန်း (၈) ရာခိုင်နှုန်းဖြင့် (၅) နှစ်အတွင်း ပြန်လည်ပေးဆပ်မည်ဖြစ်ပါသည်။ | ကျပ် ၁၇၅၄.၂၈သန်း<br>US $ ၇.၀၈သန်း (အပါအဝင်)<br>ဟောင်ကောင်၊ Link Trading Ltd. မှ ချေးယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုးနှုန်း (၈) ရာခိုင်နှုန်းဖြင့် (၅) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။ |
| ၄ | မြေအကြောင်းအရာ<br>- မြေအကျယ်အဝန်း<br>- မြေပိုင်ဆိုင်မှု | ၁၅.၄ဧက (၆၂၃၂၁.၆၄ စတုရန်းမီတာ)<br>မန္တလေးမြို့စည်ပင်သာယာရေးကော်မတီပိုင်မြေ | ၁၂.၁၈၈၁ဧက (၄၉၃၂၃.၅၃ စတုရန်းမီတာ)<br>မန္တလေးမြို့စည်ပင်သာယာရေးကော်မတီပိုင်မြေ |

| စဉ် | အကြောင်းအရာ | မူလအဆိုပြုတင်ပြချက် | ယခုပြင်ဆင်တင်ပြချက် |
|---|---|---|---|
| | - မြေအသုံးချခွင့်ပေးငွေ | ကျပ် ( ၄၆၀ ) သန်း ကို မြေငှား ၁၁ ချုပ်ချုပ်ဆိုသည့်နေ့တွင်တစ်ဝက်နှင့်ကျန်ငွေတစ်ဝက်ကို အား ၁၁ ချုပ်ချုပ်ဆိုပြီး သည့်နေ့မှစ၍ ( ၆ ) လမှ ( ၈ ) လအတွင်း ပေးသွင်းရန်၊ | ကျပ် ( ၃၆၂.၂ ) သန်း ကို မြေငှား သဘောတူ ၁၁ ချုပ်ချုပ်ဆိုပြီး နောက်ပေးသွင်းရမည်ဖြစ်ပါသည်။ |
| | - မြေငှားသက်တမ်း | နှစ် ၃၀ ( B.O.T ) စနစ်<br>နောက်ထပ် ( ၅ ) နှစ် ( ၃ ) ကြိမ်တိုး မြှင့်ခွင့် | နှစ် ၃၀ ( B.O.T ) စနစ်<br>နောက်ထပ် ( ၅ ) နှစ် ( ၃ ) ကြိမ်တိုး မြှင့်ခွင့် |
| | - နှစ်စဉ်မြေငှားရမ်းခ | -ဟိုတယ်လုပ်ငန်း အတွက်ကျပ်ငွေဖြင့်ရရှိမည့် စုစုပေါင်းဝင်ငွေ၏၅%(သို့) ကျပ်သိန်း ( ၁၅၀ )၊ ယင်း နှစ်ရပ်အနက်များ ရာကိုလည်းကောင်း နိုင်ငံခြား ငွေဖြင့်ရရှိသည့်စုစုပေါင်း ဝင်ငွေ၏ ၅ %ကိုလည်း ကောင်း ပေးချေ ရန်၊<br>-ကျန်လုပ်ငန်း များ အတွက်ငှား ရမ်း နိုင်သော ဧရိယာအပေါ်တစ်ဝတုရန်း မီတာ လျှင်မြန်မာကျပ် ငွေဖြင့်ငှား ရမ်း ပါကကျပ် ( ၆၀၀ ) နှုန်း ဖြင့်လည်း ကောင်း ၊ နိုင်ငံ ခြား ငွေဖြင့်ငှား ရမ်း ပါကအမေရိကန် | -ဟိုတယ်လုပ်ငန်း မှကျပ် ငွေဖြင့်ရရှိသည့်စုစု ပေါင်း ဝင်ငွေ၏ ၅%နှင့်ညီမျှသောကျပ်ငွေ (သို့) ကျပ်သိန်း ( ၆၀ )၊ ယင်း နှစ်ရပ်အ နက်များ ရာကိုလည်း ကောင်း ၊ နိုင်ငံခြား ငွေဖြင့်ရရှိသည့်စုစု ပေါင်း ဝင်ငွေ၏ ၅%ကိုလည်း ကောင်း ပေး ချေရန်၊<br>-ကျန်လုပ်ငန်း များ အတွက်ငှား ရမ်း နိုင် သော ဧရိယာ၏တစ်ဝတုရန်း မီတာလျှင် မြန်မာကျပ် ငွေဖြင့်ငှား ရမ်း ပါကကျပ် ( ၆၀၀ ) နှုန်း ဖြင့်လည်း ကောင်း ၊ နိုင်ငံ ခြား ငွေဖြင့်ငှား ရမ်း ပါကအမေရိကန် |

| စဉ် | အကြောင်းအရာ | မူလအဆိုပြုတင်ပြချက် | ယခုပြင်ဆင်တင်ပြချက် |
|---|---|---|---|
| | | ဒေါ်လာ (၆) ဒေါ်လာနှုန်းဖြင့် လည်းကောင်း ပေးချေရန်၊ (Plaza,Office,Apartment,Shopping Centreနှင့်Condominiumလုပ်ငန်းများမှအရှုံး ပေါ်ပေါက်ခဲ့ပါက နိုင်ငံတော်မှတာဝန်ပေး သည့်စာရင်းစစ်အဖွဲ့ဖြင့်စစ်ဆေးပြီးငှား ရမ်းခပေးချေခြင်းမှကင်းလွတ်ခွင့်ပြု ရန်၊) | ဒေါ်လာ (၆) ဒေါ်လာနှုန်းဖြင့် လည်း ကောင်း ပေးချေရန်၊ (Plaza,Super Market & Office, Condominium - လုပ်ငန်းများမှ အရှုံးပေါ်ပေါက်ပါက နိုင်ငံတော်မှတာဝန် ပေးသည့်စာရင်းစစ်အဖွဲ့ဖြင့်စစ်ဆေး ပြီး မှန်ကန်ပါက အရှုံးပေါ်သောကာလအ တွက်ငှားရမ်းခပေးချေခြင်းမှကင်း လွတ်ခွင့်ပြုရန်ဖြစ်ပါသည်) |
| ၅ | ဝန်ဆောင်မှု | - အမြင့် (၁၆) ထပ်၊ အခန်း (၄၀၀) ပါ ရှိသော Royal City Hotel<br>- အမြင့် (၅) ထပ်ပါရှိသော Plaza<br>- အမြင့် (၉) ထပ်ပါရှိသော ရုံးခန်းနှင့် လူနေအိမ်ခန်း<br>- အမြင့် (၈) ထပ်ပါရှိသော ဈေးဆိုင်ခန်း နှင့်ကွန်ဒိုမီနီယံ။ | - အမြင့် (၈) ထပ် (၁၄၇) ခန်းပါရှိသော Hotel ၁လုံး<br>- အမြင့် (၅) ထပ်ပါရှိသောPlaza ၆လုံး<br>- အမြင့် (၄) ထပ်ပါရှိသောPlaza ၂လုံး<br>- အမြင့် (၄) ထပ်ပါရှိသောSuper Market နှင့် Office ၂လုံး<br>- အမြင့် (၈) ထပ်ပါရှိသော Condominium ၂လုံး |

| စဉ် | အကြောင်းအရာ | မူလအဆိုပြုတင်ပြချက် | ယခုပြင်ဆင်တင်ပြချက် |
|---|---|---|---|
| | | (ပန်းခြံ၊ ရေကူးကန်နှင့်နားနေရာနှင့်ကားရပ်နားရန်နေရာများ အပါအဝင်) | |
| ၆ | တည်ဆောက်မှုကာလ | ၄၀ လ | ၄၀ လ |
| ၇ | နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့် အကျိုးအမြတ် | | |
| | - ဝင်ငွေခွန် (ကျပ်) | ကျပ် ၃၆.၇၆ သန်း | ကျပ် ၂၅.၇၉ သန်း |
| | (US $) | US$ ၇.၇၀ သန်း | US$ ၀.၂၀ သန်း |
| | - ကုန်သွယ်လုပ်ငန်းခွန် (ကျပ်) | ကျပ် ၂၇.၉၀ သန်း | ကျပ် ၂.၇၆ သန်း |
| | (US$) | US$ ၄.၇၇ သန်း | US$ ၀.၁၄ သန်း |
| | - မြေငှားရမ်းခရငွေ | | |
| | (ဟိုတယ်လုပ်ငန်း) (ကျပ်) | ကျပ် ၁၅.၀၀ သန်း | ကျပ် ၆.၀၉ သန်း |
| | (US$) | US$ ၀.၇၀ သန်း | US$ ၀.၀၇ သန်း |
| | (အခြားလုပ်ငန်း) (ကျပ်) | ကျပ် ၁၀.၀၀ သန်း | ကျပ် [illegible] သန်း |
| | (US$) | US$ ၀.၆၃ သန်း | US$ ၀.၁၁ သန်း |

* ကေား * ၁၃ - ၁ - ၉၀

၂/၉၈ ကြိမ် [illegible] မှတ်တမ်း
(၁၉.၁.၉၈)

| အမှတ်စဉ် | ဆွေးနွေးချက်နှင့် ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| ၁၁ | **စီးတီးမင်းကုမ္ပဏီလီမိတက် ( City Man Co., Ltd. ) မှတည်ဆောက်လုပ်ဆောင်လွှဲပြောင်း ( B.O.T ) သဘောတူစာချုပ်နှင့် မြေငှားစာချုပ်ပါ အချက်များကို ပြင်ဆင်ပြောင်းလဲခွင့်ပြုရန်တင်ပြလာခြင်းကိစ္စ။**<br><br>တွဲဖက်အတွင်းရေးမှူး ဦးမောင်မောင်ရီက သုံးသပ်ချက်ကို ရှင်းလင်းတင်ပြပါသည်။<br><br>ဒုတိယဝန်ကြီးချုပ် ဒုတိယဗိုလ်ချုပ်ကြီးမောင်မောင်ခင်က စည်းမျဉ်းစည်းကမ်းများနှင့်ယခုပြင်ဆင်တင်ပြချက်တို့တွင် ကွာခြားသည့်အချက်များကို နှိုင်းယှဉ်သိရှိလိုကြောင်း ပြောကြားရာ တွဲဖက်အတွင်းရေးမှူး ဦးမောင်မောင်ရီက ပူးတွဲဇယားဖြင့်တင်ပြထားပါကြောင်း၊ မြေအကျယ်အဝန်းအနေဖြင့် ၁၅.၄ ဧကမှ ၁၂.၁၈၈၁ ဧကသို့ ပြောင်းလဲသွားပါကြောင်း၊ မြေအသုံးချခွင့်ပေးငွေတွင် မူလက ကျပ် ၄၆၀.သန်းအစား ကျပ် ၃၆၂.၂သန်းသတ်မှတ်ရန်တင်ပြထားပါကြောင်း၊ နှစ်စဉ်မြေငှားရမ်းခများကိုလည်း ပူးတွဲဇယားတွင် နှိုင်းယှဉ်ထားပါကြောင်း ရှင်းလင်းတင်ပြပါသည်။<br><br>ဒုတိယဝန်ကြီးချုပ် ဒုတိယဗိုလ်ချုပ်ကြီးမောင်မောင်ခင်က ပြင်ဆင်တင်ပြချက်များတွင် မြေအသုံးချခွင့်ပေးငွေနှင့်စပ်လျဉ်း၍ မြေဧရိယာလျော့နည်းသွားသည့်အတွက် မြေအသုံးချခွင့်ပေးငွေကျပ် ၃၆၂.၂သန်း ပေးရန်ကိစ္စကိုသဘောတူကြောင်း၊ နှစ်စဉ်မြေငှားရမ်းခတွင် ဟိုတယ်လုပ်ငန်းအတွက် မြေငှားရမ်းခနှင့်စပ်လျဉ်း၍ ဟိုတယ်အပိုင်းတွင် အခန်း(၄၀၀) ပါသော ဟိုတယ်မှအခန်း ၁၄၇ ခန်းပါရှိသော ဟိုတယ်သို့ လျော့ချမည်ဖြစ်သဖြင့် ``ဟိုတယ်လုပ်ငန်းအတွက် ကျပ်ငွေဖြင့်ရရှိမည့်စုစုပေါင်းဝင်ငွေ၏ ၅ %သို့မဟုတ်ကျပ်သိန်း ၁၅၀၊ ယင်း( ၂ )ရပ်အနက်များရာကို ပေးရန်``ဟု သောကိစ္စတွင် ကျပ်သိန်း ၁၅၀အစား ကျပ်သိန်း( ၆၀ )သို့ လျော့ချပေးသွင်းခွင့်ပြုရန်ဖြစ်ကြောင်း၊ ကျန်လုပ်ငန်းများအတွက် နှစ်စဉ်မြေငှားရမ်းခကိုမူလ | |

| အမှတ်စဉ် | ဆွေးနွေးချက်နှင့် ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
| --- | --- | --- |
| ၁ | ၂ | ၃ |
| | စာချုပ်ပါစည်းမျဉ်းစည်းကမ်းများအတိုင်းပင်ထားရှိရန်ဖြစ်ကြောင်း ပြောကြားပါသည်။<br><br>ဝန်ကြီး ဗိုလ်မှူးချုပ်လွန်းမောင်က မန္တလေးတွင် ဟိုတယ်များအရှုံးပေါ်လျက်ရှိသည့်အတွက် ဟိုတယ်ပိုင်းကို လျှော့ခြင်းဖြစ်ကြောင်း၊ ကျန်အပိုင်းများတွင် မူလအတိုင်းထားသင့်ကြောင်း၊ အကယ်၍ အရှုံးပေါ် ပေါက်ကြောင်းတင်ပြလာပါက စာရင်းစစ်ဝင်ရောက်စစ် ဆေးပြီး၊ အရှုံးပေါ်ကြောင်းမှန်ကန်ပါက သက်သာခွင့်ပေးရန်ဖြစ်ကြောင်း ပြောကြားပါသည်။<br><br>ဒုတိယဝန်ကြီးချုပ် ဒုတိယဗိုလ်ချုပ်ကြီးမောင်မောင်ခင်က Land Use Premium ပေးသွင်းပြီးမှုအခြေအနေကို မေးမြန်းရာ မန္တလေးစည်ပင်သာယာရေးကော်မတီ အတွင်းရေးမှူး ဦးသောင်းတင်က Land Use Premium အတွက် ကျပ် ၃၈၂ သန်း ပေးသွင်းပြီးဖြစ်ပါကြောင်း ပြောကြားပါသည်။<br><br>ဒုတိယဝန်ကြီးချုပ် ဒုတိယဗိုလ်ချုပ်ကြီးမောင်မောင်ခင်က ပေးသွင်းပြီး Land Use Premium မှာ ကျပ်၃၈၂သန်းဖြစ်ပြီး Land Use Premium သတ်မှတ်ချက်မှာ ၃၆၂.၂သန်းဖြစ်ရာ ပိုငွေကို ပြန်ပေးရန်ဖြစ်ကြောင်း ပြောကြားပါသည်။<br><br>တွဲဖက်အတွင်းရေးမှူး ဦးမောင်မောင်ရီက B.O.T Contract နှင့် Lease Agreement တို့ကို ၁၀-၁၀-၉၆ နေ့တွင် လက်မှတ်ရေးထိုးခဲ့ကြောင်း၊ လက်မှတ်ရေးထိုးစဉ်က စီးတီးမင်းကုမ္ပဏီမှာ မဖွဲ့စည်းရသေးကြောင်း၊ စီးတီးမင်းကုမ္ပဏီကို ၂၁-၂-၉၇ နေ့တွင် မှတ်ပုံတင်ဖွဲ့စည်းပါကြောင်းတင်ပြပါသည်။<br><br>ဒုတိယဝန်ကြီးချုပ် ဒုတိယဗိုလ်ချုပ်ကြီးမောင်မောင်ခင် | |

| အမှတ်စဉ် | အစီရင်ခံချက်နှင့်ဆုံးဖြတ်ချက် | ဆောင်ရွက်ရန်<br>သိသာရန် |
|---|---|---|
| ၁ | မန္တလေးစည်ပင်သာယာရေးကော်မတီအနေဖြင့် ကုမ္ပဏီဖွဲ့စည်းသည့် ၂၅-၂-၉၇ ရက်နေ့နှင့်လိုက်လျောညီထွေဖြစ်စေရန် စာချုပ်ကို Regularize ပြန်လုပ်ရန်ဖြစ်ကြောင်း၊ အဆောက်အဦများပြီးစီးရမည့်ကာလမှာ ၂၅-၂-၉၇ ရက်နေ့မှစ၍ ၄၈ လအတွင်းပြီးရမည်ဖြစ်ကြောင်း ပြောကြားပါသည်။ ဆက်လက်၍ ဒုတိယဝန်ကြီးချုပ်က မော်တော်ယာဉ်တင်သွင်းခွင့်နှင့်စပ်လျဉ်း၍ တည်ဆောက်ဆဲကာလတွင် Saloon ၁ စီး၊ Pick-up ၁ စီးနှင့် Truck ၁ စီးတို့ကို အခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်သည့်ကာလတွင် Saloon ၁ စီး၊ Pick-up ၁ စီးနှင့် Truck ၁ စီးတို့ကိုအခွန်အကောက် ၅၀ % သက်သာခွင့်ဖြင့်လည်းကောင်း တင်သွင်းရန်ဖြစ်ကြောင်း၊ ဓါတ်လှေခါးတင်သွင်းခွင့်နှင့်စပ်လျဉ်း၍ ၈ ထပ်ဟိုတယ်အတွက် ဓါတ်လှေခါး (၃) ခု၊ ၅ ထပ် Plaza ၆ လုံးအတွက် ဓါတ်လှေခါး (၆) ခု၊ ၈ ထပ်ကွန်ဒိုမီယမ် ၂ လုံးအတွက် ဓါတ်လှေခါး (၄) ခု၊ စုစုပေါင်းဓါတ်လှေခါး (၁၃) ခုကိုလည်းကောင်း၊ တယ်လီဗေးရှင်းနှင့်စပ်လျဉ်း၍ ဟိုတယ်အတွက် ၂၁ လက်မ တယ်လီဗေးရှင်း (၂၀၀) လုံး၊ Refrigerator အတွက်အသေး (၁၅၀) လုံး၊ အကြီး (၅၀) လုံး၊ စုစုပေါင်းအလုံး (၂၀၀)၊ Air Con အတွက် 1.5 HP အလုံး (၁၀၀) နှင့် 2 HP အလုံး (၁၀၀)၊ စုစုပေါင်းအလုံး (၂၀၀) တို့ကိုခွင့်ပြုရန်ဖြစ်ကြောင်း၊ Plaza တွင်အများသုံးအတွက် Air Con တပ်ဆင်ရန်လိုအပ်ပါက သီးခြားတင်ပြရန်ဖြစ်ကြောင်း ပြောကြားပါသည်။ | ၃ |
| | <u>ဆုံးဖြတ်ချက်။</u> | |
| | (၁) မြေငှားရမ်းခနှင့်ပတ်သက်၍ ဟိုတယ်လုပ်ငန်းအတွက်ကျပ်ငွေဖြင့်ရရှိမည့်စုစုပေါင်းဝင်ငွေ ၅ % (သို့မဟုတ်) ကျပ်သိန်း ၆၀ အနက်များရာကို ပေးရန်၊ ကျန်လုပ်ငန်းများအတွက် မူလစာချုပ်ပါစည်းကမ်းများအတိုင်းထားရှိရန်။ | အတွင်းရေးမှူး<br>မန္တလေးစည်ပင်သာယာရေးကော်မတီ |

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
| --- | --- | --- |
| ၁ | ၂ | ၃ |
| | (၂) စာချုပ်များကို ကုမ္ပဏီဖွဲ့စည်းသည့်နေ့နှင့်လိုက်လျောညီထွေဖြစ်ရန် Regularize ပြန်လုပ်ရန်။<br><br>(၃) မော်တော်ယာဉ်တင်သွင်းမှုအတွက် တည်ဆောက်ဆဲကာလတွင် Saloon ၁ စီး၊ Pick-up ၉ စီးနှင့် Truck ၁ စီးတို့ကိုအခွန်အကောက်သက်သာခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်သည့်ကာလတွင် Saloon ၁ စီး၊ Pick-up ၁ စီးနှင့် Truck ၁ စီးတို့ကို အခွန်အကောက် ၅၀ % သက်သာခွင့်ဖြင့်လည်းကောင်းတင်သွင်းရန်။<br><br>(၄) ဓါတ်လှေခါးတင်သွင်းမှုတွင် ၈ ထပ်ဟိုတယ်အတွက် ဓါတ်လှေခါး (၃) ခု၊ ၅ ထပ် Plaza ၆ လုံးအတွက် ဓါတ်လှေခါး (၆) ခု၊ ၇ ထပ်ကွန်ဒိုမီယမ် ၂ လုံးအတွက် ဓါတ်လှေခါး (၄) ခု၊ စုစုပေါင်းဓါတ်လှေခါး ၁၃ ခု တင်သွင်းခွင့်ပြုရန်။<br><br>(၅) တယ်လီဗေးရှင်းတင်သွင်းရေးအတွက် ဟိုတယ်အတွက် ၂၁ လက်မ တယ်လီဗေးရှင်းအလုံး ၂၀၀၊ Refrigerator အတွက်အသေး ၁၅၀ လုံး၊ အကြီး ၅၀ လုံး၊ စုစုပေါင်းအလုံး ၂၀၀ တင်သွင်းခွင့်ပြုရန်။<br><br>(၆) Air Con အတွက် 1.5 H.P အလုံး (၁၀၀) နှင့် 2 H.P အလုံး (၁၀၀) စုစုပေါင်းအလုံး (၂၀၀) တင်သွင်းခွင့်ပြုရန်နှင့် Plaza တွင်အများသုံးအတွက် Air Con တပ်ဆင်ရန်လိုအပ်ပါက သီးခြားတင်ပြရန်။ | |

၂/၉၈ ကြိုး-

<u>လျှို့ဝှက်</u>

အကြောင်းအရာ။ ။ <u>စီးတီး မင်း ကုမ္ပဏီလီမိတက်မှ တည်ဆောက်၊ လုပ်ဆောင် လွှဲပြောင်း (B.O.T) သဘောတူစာချုပ်နှင့် မြေငှား စာချုပ်ပါအချက်များ ကိုပြင်ဆင်ပြောင်းလဲခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ</u>။

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ ပြည်ထောင်စုမြန်မာနိုင်ငံတော်ဝန်ကြီးချုပ်ရုံး မှ မန္တလေး စည်ပင်သာယာရေး ကော်မတီနှင့်စီးတီးမင်း ကုမ္ပဏီလီမိတက်တို့အကြား ၁၀-၁၀-၉၆ နေ့တွင်ချုပ်ဆိုခဲ့သော B.O.T သဘောတူစာချုပ် နှင့် မြေငှား သဘောတူစာချုပ်တို့ကိုပြင်ဆင်ရန်ကိစ္စ နှင့်ပတ်သက်၍ တင်ပြလာပါသည်။

စီးတီး မင်း ကုမ္ပဏီလီမိတက်မှ ဟိုတယ်၊ ပလာဇာ၊ ရုံးခန်းနှင့်လူနေအိမ်ခန်း၊ ဈေးဆိုင်ခန်း နှင့်ကွန်ဒိုမီနီယံတည်ဆောက်ခြင်း နှင့်ငှားရမ်းခြင်း လုပ်ငန်းကိုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ (၂၈-၅-၉၆) နေ့တွင် မနသ-၀၂၁/၉၆ဖြင့်ခွင့်ပြုမိန့် ပေးပြီး ဖြစ်ပါသည်။ ယင်း ခွင့်ပြုမိန့်အရ - (၁၀-၁၀-၉၆) နေ့တွင်နှစ်ဘက်သဘောတူစာချုပ်ချုပ်ဆိုခဲ့ပြီး ဖြစ်ပါသည်။ မီး ရထား ဝန်ထမ်း အိမ်ရာများ ကိုလည်း (၂၃-၄-၉၇) နေ့တွင် ရွှေ့ပြောင်း ပေး ခဲ့ပြီး ဖြစ်ပါသည်။ မူလစာချုပ်ချုပ်ဆိုငှား ရမ်း စဉ်က မြေ (၁၅.၄) ဧကရှိခဲ့သော်လည်း မန္တလေး မြို့စည်ပင်သာယာရေး ကော်မတီမှ စီမံကိန်း မြေအတွင်း လမ်း များ ဖောက် လုပ်ခြင်း၊ မီး ရထား ဝန်ထမ်း အိမ်ရာ မြေ၌ ရွှေဘုံသာဘုရား မြေများ ပါရှိနေခြင်း တို့ကြောင့်လုပ်ငန်း စတင်ရန် မြေကွက်ကိုကွင်း ဆင်း တိုင်း တာသည့်အခါမြေမှာ (၁၂.၁၀၀၁) ဧကသာကျန်ရှိတော့ကြောင်း တွေ့ရှိရပါသည်။ ထို့အပြင်မူလရင်းနှီးမြှုပ်နှံရန်တင်ပြသူများ အစား ဒါရိုက်တာအဖွဲ့ဝင်များ တိုး ချဲ့ဖွဲ့စည်း ခဲ့သဖြင့်စီးတီး မင်း ကုမ္ပဏီလီမိတက်မှ မူလစာချုပ် ကို အောက်ပါအတိုင်း ပြင်ဆင် ပြောင်း လဲခွင့်ပြုရန်တင်ပြလာပါသည်။

(က) မူလစာချုပ်ပါမြေ (၁၅.၄) ဧကမှ (၁၂.၁၀၀၁) ဧကသို့ လျော့နည်းသွားသဖြင့် မြေအသုံးချမှုပရီမီယံကြေး ကိုမူလ ကျပ် ၄၆၀၀ သိန်း ကိုပြင်ဆင်သတ်မှတ်ခွင့်၊

<u>လျှို့ဝှက်</u>

(ခ) မြေဧရိယာလျှော့နည်းသွားမှုကြောင့်မူလအဆောက်အဦများ၏ ပုံစံဒီဇိုင်းများ ပြင်ဆင်ခွင့်ပြုရန်တင်ပြခြင်း ၊

(ဂ) ဒါရိုက်တာအဖွဲ့ဝင်များ အနေဖြင့်မူလတင်ပြထားသည့်ဒါရိုက်တာအဖွဲ့ဝင်ဦး ရေအစား အဖွဲ့ဝင် (၉) ဦး အထိတိုး၍ဖွဲ့စည်း ပြီးဖြစ်ခြင်း ၊

(ဃ) တိုယ်ငှားရမ်း ခကိုမူလစာချုပ်အရတစ်နှစ်ဝင်ငွေ၏ ၅% (သို့) ကျပ်သိန်း ၁၅၀ အနက်များ ရာကိုလည်း ကောင်း၊ အမေရိကန်ဒေါ်လာဖြင့်စုစုပေါင်း ဝင်ငွေ၏ ၅% ကိုလည်း ကောင်း ပေးချေရန်အစား ကျပ်ငွေဖြင့်စုစုပေါင်း ဝင်ငွေ၏ ၃% (သို့) ကျပ်သိန်း (၅၀) အနက်များရာကိုလည်း ကောင်း ၊ အမေရိကန်ဒေါ်လာဖြင့်စုစုပေါင်း ဝင်ငွေ၏ ၃% ကိုလည်း ကောင်း ပြင်ဆင်ပေး ချေခွင့် ၊

(င) Plaza, Condominium - နှင့် Super Market နှင့် Office အဆောက်အဦများ အတွက်ငှား ရမ်း ခကိုငှား ရမ်း နိုင်သောဧရိယာ၏တစ်နှစ်လျှင်တစ်စတုရန်း မီတာလျှင်ကျပ် (၆၀၀) နှင့်အမေရိကန်ဒေါ်လာအား ဖြင့် (၆) ဒေါ်လာ နှုန်း အစား တစ်စတုရန်း မီတာလျှင်ကျပ် (၁၅၀) နှုန်း နှင့် အမေရိကန်ဒေါ်လာ (၃) ဒေါ်လာနှုန်း ဖြင့် ပေး ချေခွင့် ပြုရန်တို့ကိုတင်ပြထား ပါသည်။

မူလအဆိုပြုတင်ပြချက်နှင့်ယခုပြင်ဆင်တင်ပြချက်များ ၏အဓိကအချက်များ နှိုင်း ယှဉ်ချက်ကိုပူး တွဲ ဇယား ဖြင့်တင်ပြအပ်ပါသည်။

## သုံးသပ်တွေ့ရှိချက်

၁။ B.O.T Contract နှင့် Lease Agreement တို့ကို ၁၀-၁၀-၉၆ နေ့တွင်လက်မှတ်ရေးထိုးခဲ့ပြီး စီးတီးမင်းကုမ္ပဏီလီမိတက်ကို ၂၅-၂-၉၇ နေ့တွင် မှတ်ပုံတင်ဖွဲ့စည်းခဲ့ပါသည်။

၂။ စာချုပ်များလက်မှတ်ရေးထိုးသည့် ၁၀-၁၀-၉၆ နေ့တွင် စီးတီးမင်းကုမ္ပဏီကို မဖွဲ့စည်းရသေးသဖြင့် ယင်းနေ့တွင် စာချုပ်မှာ စတင်အကျိုးသက်ရောက်မှုမရှိသေးသော်လည်း စာချုပ်များအနေဖြင့် ကုမ္ပဏီဖွဲ့စည်းတည်ထောင်သည့် ၂၅-၂-၉၇ နေ့မှစ၍ အကျိုးသက်ရောက်မှုရှိလာပြီဖြစ်ပါသည်။

၃။ သို့ဖြစ်ရာ ကုမ္ပဏီဖွဲ့စည်းသည့်နေ့မှစ၍ တရားဝင်အကျိုးသက်ရောက်မှုရှိမည်ဖြစ်သော B.O.T Contract နှင့် မြေငှားသဘောတူစာချုပ်တို့အပေါ် ပြင်ဆင်သည့်သဘောတူစာချုပ်များကို ဥပဒေအရ တင်ပြခွင့်ရှိကြောင်း တွေ့ရပါသည်။

၄။ အဆိုပါပြင်ဆင်သည့်သဘောတူစာချုပ်များ တင်ပြခြင်းကို ကော်မရှင်က မူအားဖြင့်သဘောတူပါက စာချုပ်ပါ Letters of Law အသေးစိတ်များကို လိုအပ်သလိုပြင်ဆင်၍ ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ဖြစ်ပါသည်။

၅။ မြေအသုံးချမှုပရီမီယံကြေးကို မူလစာချုပ်အရ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင် တစ်ဝက်ဖြစ်သော ဒေါ်လာ[illegible]န်း ၂၃၀၀ ကိုပေးချရမည်ဖြစ်ရာ ပေးသွင်းပြီးခြင်းရှိမရှိ ဖော်ပြထားခြင်းမရှိပါ။

၆။ ဟိုတယ်ငှားရမ်းခနှင့်ပတ်သက်၍ မန္တလေးမြို့စည်ပင်သာယာရေးကော်မတီမှ မူလခွင့်ပြုထားသည့် စုစုပေါင်းဝင်ငွေ၏ ၅ % ကိုလည်းကောင်း၊ ကျပ်ငွေဖြင့်အနည်းဆုံး သတ်မှတ်ချက်ကို ယခုပြင်ဆင်အဆိုပြုသည့် ကျပ်သိန်း ၅၀ ကိုလည်းကောင်း ထောက်ခံတင်ပြထားပါသည်။

၇။ ကျန်အဆောက်အဦများ ငှားရမ်းခကို မူလခွင့်ပြုထားသည့်အတိုင်း ငှားရမ်းနိုင်မည့်ကြမ်းပြင်ဧရိယာအပေါ်တစ်စတုရန်းမီတာလျှင်ကျပ်ငွေဖြင့်ကျပ် ၆၀၀ နှုန်း နှင့်နိုင်ငံခြားငွေဖြင့်အမေရိကန်ဒေါ်လာ ၆နှုန်းကို ကောက်ခံတင်ပြထားပါသည်။

၈။ ယခုတင်ပြထားသည့် Loan Agreement မှာပီပြင်ပြည့်စုံမှုမရှိကြောင်း တွေ့ရှိရပါသည်။ မူလတင်ပြခဲ့သည့် Loan Agreement မှာ City Man Co., Ltd. နှင့်ချုပ်ဆိုထားခြင်း မဟုတ်ပဲရင်းနှီးမြှုပ်နှံသူဦးမြင့်ဝင်း၏အခြားကုမ္ပဏီတစ်ခုဖြစ်သော ရွှေမင်းဂံ အထွေထွေလုပ်ငန်း နှင့်ချုပ်ဆိုထားခြင်းဖြစ်ကြောင်း တွေ့ရှိရပါသည်။

၉။ ပြည်ပမှတင်သွင်းမည့်စက်ပစ္စည်းစာရင်းတွင် Saloon Car အစီး (၃၀)၊ Station Wagon (၅)စီး၊ Pick-up (၅)စီး၊ Truck ( 1.5 tons & up ) အစီး (၂၀)၊ Lift (၂၂)စင်း၊ Television (၆၁၂) Set၊ Refregirator (၆၁၂) Set နှင့် Air Conditioner (၆၁၂) Set တို့ပါဝင်ပါသည်။



မာ*၀၃/၁/၉၀။

# CITY MAN COMPANY LIMITED


Ref :

Dated.

သို့၊

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။

နေ့စွဲ။ ၁၉၉၈ ခုနှစ် ဇန်နဝါရီလ (၁၉)ရက်။

အကြောင်းအရာ။ ။ <u>ပြည်ထောင်စုမြန်မာနိုင်ငံတော် နိုင်ငံသားရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ (၁၂) နှင့် (၁၃) တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် သက်သာခွင့်များ လျှောက်ထားခြင်း။</u>

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပါတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ စီးတီးမင်းကုမ္ပဏီလီမိတက်မန္တလေးမြို့စည်ပင်သာယာရေးပိုင် လမ်း(၃၀) နှင့် လမ်း (၃၃) ကြား၊ (ရရ) လမ်းနှင့် (ရ၈)လမ်းကြားရှိ အကွက်အမှတ် (၆၂၄)၊ (၆၂၅) နှင့် (၆၃၂) တို့တွင် အဆင့်မြင့် ဟိုတယ်၊ ပလာဇာ၊ ကွန်ဒိုမီနီယံနှင့် အဆင့်မြင့်ဈေးနှင့်ရုံခန်းတို့ကို မန္တလေးမြို့စည်ပင်သာယာရေးကော်မတီ နှင့် တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်း စာချုပ်ချုပ်ဆိုကာ လုပ်ဆောင်သွားရန် ပြည်ထောင်စုမြန်မာနိုင်ငံတော် ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါ သည်။

၂။ အထက်ဖေါ်ပြပါလုပ်ငန်းများဖြစ်သော ဟိုတယ်၊ ပလာဇာ၊ ကွန်ဒိုမီနီယံနှင့် အဆင့်မြင့် ဈေးနှင့်ရုံခန်း တို့ကိုတည်ဆောက်ရာတွင် နိုင်ငံတကာအဆင့်မှီဆောက်လုပ်နိုင်ရန်အတွက် အမေရိကန်ဒေါ်လာ (ရ .၀၈) သန်းတန်ဘိုးရှိ စက်ပစ္စည်းများ၊ ဆောက်လုပ်ရေးပစ္စည်းများ၊ မော်တော်ယဉ်များ၊ လျှပ်စစ်ပစ္စည်းများ များကို ဈေးငွေဖြင့် တင်သွင်းဝယ်ယူမည်ဖြစ်ပါသည်။

၃။ မန္တလေးမြို့တွင် ခေတ်မီတိုးတက်သော အဆင့်မြင့် ဟိုတယ်၊ ပလာဇာ၊ ကွန်ဒိုမီနီယံနှင့် အဆင့်မြင့် ဈေးနှင့်ရုံခန်းတို့ကိုတည်ဆောက်ခြင်းဖြင့် မန္တလေးမြို့တော်ကို ခေတ်မီမြို့တော်ဖြစ်လာ စေရေး၊ မန္တလေးမြို့တော် လှပလာစေရေး၊ အလုပ်အကိုင်နေရာများပေါ်ထွန်းစေရေး၊ လူနေမှုအဆင့် အတန်းမြင့်မားလာစေရေး၊ဒေသခံပြည် သူများ တို့အပြင် နိုင်ငံခြားဝင်ငွေများရရှိစေမည်ဖြစ်ပါသည်။

၄။ ထိုအပြင် ဒေသခံအလုပ်သမားများအနေဖြင့် ဆောက်လုပ်ရေးနည်းပညာတိုးတက်စေခြင်း၊ ဟိုတယ် ပလာဇာ၊ ကွန်ဒိုမီနီယံ ၊ အဆင့်မြင့်ဈေးနှင့်ရုံးခန်းတို့ကို စီမံအုပ်ချုပ်မှု အတွေ့အကြုံများ ရရှိစေခြင်း၊ နိုင်ငံတော်အတွက်အခွန်ငွေများတိုးတက်ရရှိစေခြင်းစသည့် အကျိုးကျေးဇူးများစွာလည်း ရရှိစေမည်ဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ အထက်ပါတည်ဆောက်လုပ်ဆောင်လွှဲပြောင်းခြင်းလုပ်ငန်းကို နိုင်ငံခြားဈေးငွေ အပါအဝင် ရင်းနှီးမြှုပ်နှံငွေကျပ်သန်းပေါင်း (၁၈၅၄ .၂၈) သန်းရင်းနှီးမြှုပ်နှံလုပ်ကိုင်မည်ဖြစ်ပါ၍ မြန်မာ နိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်လျှောက်လွှာကို လက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စုမြန်မာ နိုင်ငံတော် နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၁၂)နှင့်(၁၃) တို့အရ အခွန်ဆိုင်ရာ ကင်းလွတ် ခွင့်နှင့် သက်သာခွင့်များကိုလည်းကောင်း၊တည်ဆောက်ရေးလုပ်ငန်းအတွက်လိုအပ်သော ပစ္စည်း များကို


MANDALAY OFFICE : No. 635, Between 31st & 33rd St, and Between 77th & 78th St., Chan Aye Tha Zan Township, Mandalay. PH :

YANGON OFFICE : No. 43/44, Bahosi Compound, Lanmadaw Township, Yangon, Myanmar. PH : 01-223787, 228652, FAX : 95-1-227642

# CITY MAN COMPANY LIMITED

Ref :

Dated.

ပြည်ပမှ တင်သွင်းခွင့်ပြုရန်အတွက်လည်းကောင်း၊ နိုင်ငံခြားမှလုပ်ငန်းများနှင့် ထိရောက်စွာ ယှဉ်ပြိုင်လုပ်ဆောင်နိုင်ရန်အတွက် ပထမ (၃) နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန်သက်သာခွင့်ပြုပါရန်အတွက် ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနသို့ လျှောက်ထားခွင့်ပြုပါရန် မေတ္တာရပ်ခံ တင်ပြအပ်ပါသည်။

ဤလျှောက်လွှာနှင့်အတူ အောက်ဖေါ်ပြပါ အထောက်အထား စာရွက်စာတမ်းများကို ပူးတွဲတင်ပြ အပ်ပါသည်။

၁။ ပြည်ထောင်စု မြန်မာနိုင်ငံအတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်။
၂။ ကုမ္ပဏီဒါရိုက်တာအဖွဲ့စာရင်း။
၃။ ရင်းနှီးမြှုပ်နှံမှုစာရင်း။
၄။ အဆောက်အဦးတန်ဘိုးဖေါ်ပြချက်ဇယား။
၅။ ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်း၊တည်ဆောက်ရေးပစ္စည်း၊ မော်တော်ယဉ်များနှင့် လျှပ်စစ်ပစ္စည်းများ။
၆။ မြေအသုံးချဧရိယာဖေါ်ပြချက်ဇယား။
၇။ ဟိုတယ်ဝင်ငွေတွက်ချက်မှုဇယား။
၈။ ပလာဇာဝင်ငွေတွက်ချက်မှုဇယား။
၉။ အဆင့်မြင့်ဈေးနှင့်ရုံးခန်းဝင်ငွေတွက်ချက်မှုဇယား။
၁၀။ အလုပ်အကိုင်ဝန်ထမ်းခန့်ထားမှုဇယား။
၁၁။ အရှုံးအမြတ်ခန့်မှန်းချေစာရင်း။
၁၂။ အရင်းကြေကာလတွက်ချက်မှုဇယား။
၁၃။ ချေးငွေပြန်လည်ပေးဆပ်မှုဇယား။
၁၄။ I R R တွက်ချက်မှုဇယား။
၁၅။ လုပ်ငန်းပိုင်းဆိုင်ရာဘဏ္ဍာရေးအထောက်အထားများ။
၁၆။ အဆောက်အဦးပုံစံများ။
၁၇။ ဝန်ကြီးချုပ်ရုံး၏ စာအမှတ် ၅(၁)၊၃၀၀(ဃ)၊ဝ–ခ–ရ။
၁၈။ ရှေ့နေချုပ်ရုံး၏ စာအမှတ် ၂(၄)၊၁၂–၂၁၈(ဖ၄၄)။
၁၉။ တည်ဆောက်၊လုပ်ဆောင်၊လွှဲပြောင်း စာချုပ်ပြင်ဆင်ချက်။
၂၀။ မြေငှားစာချုပ်ပြင်ဆင်ချက်။
၂၁။ မန္တလေးမြို့စည်ပင်သာယာရေးကော်မတီ၏ စာအမှတ် ၄၉၇၊၉(လ)(ဃ–၃)၊၉၇။
၂၂။ မြေလျှော့နည်းမှုရှင်းလင်းချက်။
၂၃။ ချေးငွေစာချုပ်မူကြမ်း။
၂၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ခွင့်ပြုမိန့်။
၂၅။ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်။
၂၆။ ထုတ်ကုန်သွင်းကုန်လုပ်ငန်းရှင်လက်မှတ်။
၂၇။ သင်းဖွဲ့စည်းမျဉ်းနှင့်မှတ်တမ်း။

ရိုသေလေးစားစွာဖြင့်၊

(ဦးတင်မောင် (ခ) လီစန်းရှင်)
အုပ်ချုပ်မှုဒါရိုက်တာ
စီးတီးမင်းကုမ္ပဏီလီမိတက်


**MANDALAY OFFICE** : No. 635, Between 31st & 33rd St, and Between 77th & 78th St., Chan Aye Tha Zan Township, Mandalay. PH :

**YANGON OFFICE** : No. 43/44, Bahosi Compound, Lanmadaw Township, Yangon, Myanmar. PH : 01-223787, 228652, FAX : 95-1-227642

# CITY MAN COMPANY LIMITED

Ref :                                                                                                    Dated.

သို့၊

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။

နေ့စွဲ။ ၁၉၉၈ ခုနှစ် ဇန်နဝါရီလ (၁၉)ရက်။

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပါတ်သက်၍ ကတိဝန်ခံချက်ပေးပို့ခြင်း။</u>

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပါတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ စီးတီးမင်းကုမ္ပဏီလီမိတက်သည် မြန်မာနိုင်ငံသားများပိုင်ဖြစ်ပြီး ပြည်ထောင်စု မြန်မာနိုင်ငံတော်မန္တလေးမြို့တွင် အဆင့်မြင့် ဟိုတယ်၊ ပလာဇာ၊ ကွန်ဒိုမီနီယံ၊ အဆင့်မြင့်ဈေးနှင့် ရုံးခန်းများကို မန္တလေးမြို့စည်ပင်သာယာရေးကော်မတီနှင့် တည်ဆောက်၊လုပ်ဆောင်၊ လွှဲပြောင်းစာချုပ်ချုပ်ဆိုကာ မန္တလေးမြို့စည်ပင်သာယာရေးကော်မတီပိုင် မြေနေရာတွင် တည်ဆောက်ရန်ဖြစ်ပါသည်။ ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သည့် ပုဂ္ဂိုလ်ကမှ ပိုင်ဆိုင်မှုမရှိကြောင်း ဝန်ခံကတိပြုပါသည်။

၂။ အထက်ဖေါ်ပြပါလုပ်ငန်းအတွက် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးနှင့် မီးဘေးအန္တရာယ်များအတွက် ကြိုတင်ကာကွယ်မှုများကိုပါ စီမံဆောင်ရွက်ထားပါမည့်အကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်၊

(ဦးတင်မောင် (ခ) လီစန်းရှင်)
အုပ်ချုပ်မှုဒါရိုက်တာ
စီးတီးမင်းကုမ္ပဏီလီမိတက်

**MANDALAY OFFICE** : No. 635, Between 31st & 33rd St, and Between 77th & 78th St., Chan Aye Tha Zan Township, Mandalay. PH :

**YANGON OFFICE** : No. 43/44, Bahosi Compound, Lanmadaw Township, Yangon, Myanmar. PH : 01-223787, 228652, **FAX : 95-1-227642**

ပူးတွဲ- ၁

မြန်မာနိုင်ငံသားများ ဂုဏ်နိုးမြှုပ်နှံမှု ဥပဒေအရ
ဂုဏ်နိုးမြှုပ်နှံထိုသူ၏ အဆိုပြုချက်
(ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈)

သို့။

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံ ဂုဏ်နိုးမြှုပ်နှံမှု ကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊ ၀၀၉။စီအမ်။ ၁၉၉၈.
ရက်စွဲ၊ 19=01=98.

ကျွန်တော်သည် မြန်မာနိုင်ငံသား ဂုဏ်နိုးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော် အတွင်း ဂုဏ်နိုးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်က ထုတ်ပေးပါ ရန် အောက်ဖော်ပြပါ အချက်များကို ဖော်ပြ၍ လျှောက် ထားအပ်ပါသည်။

၁။ ဂုဏ်နိုးမြှုပ်နှံထိုသူ၏ –

(က) အမည် **<u>ဦးတင်မောင် (ခ) ထီစန်းဂွင်</u>**

(ခ) အဖအမည် **<u>ဦးအထယ်ဖါ</u>**

(ဂ) အမျိုးသား မှတ်ပုံတင်အမှတ် **<u>TYN- 101106</u>**

(ဃ) နေရပ်လိပ်စာ **<u>၂၈၇၊ ၃၅ ထမ်း၊ ၈၇ နှင့် ၈၈ ထမ်းကြား၊ မန္တလေးမြို့။ ဖုံး – ၀၂ – ၂၁၀၀၆။</u>**

(င) လူမျိုး၊ ဘာသာ **<u>မြန်မာ၊ ဗုဒ္ဓဘာသာ။</u>**

(စ) အဖွဲ့အစည်းအမည် **<u>စီးတီးမင်းကုမ္ပဏီ လီမိတက်၊</u>**

(ဆ) လုပ်ငန်းအမျိုးအစား **<u>တည်ဆောက်ရေးလုပ်ငန်း၊</u>**

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် **<u>၇၇ ထမ်းနှင့် ၇၈ ထမ်းကြား၊ ထမ်း ၃၀ နှင့် ၃၃ ထမ်းကြား၊ချမ်းအေးသာစံမြို့နယ်၊ မန္တလေးမြို့။</u>**

၂။ ဖက်စပ်ပြုလုပ်၍ ဂုဏ်နိုးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့် သူများ၏ – ပူးတွဲ ( ၂ )

(က) အမည် (၁) (၂)

(ခ) အဖအမည် (၁) (၂)

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် (၁) (၂)

(ဃ) နေရပ်လိပ်စာ (၁) (၂)

(င) လူမျိုး၊ ဘာသာ (၁) (၂)

(စ) အဖွဲ့အစည်းအမည်

(ဆ) လုပ်ငန်းအမျိုးအစား

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ်

(နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ ခုထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြပူးတွဲ ရန်)

၃။ ငင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား-

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း
(ခ) ဝန်ဆောင်မှုလုပ်ငန်း (construction and leasing of Plaza, condominium, Super Market & office, Hotel)
(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှု အမျိုးအစား ဖော်ပြရန်)

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ-

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း လီမိတက်ကုမ္ပဏီ
(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း
(ဂ) အဖွဲ့အစည်းနှင့် အခြား အဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်-

(က) တစ်ဦးတည်းပိုင်
(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း
(ဂ) လီမိတက်ကုမ္ပဏီ စီးတီးမင်းကုမ္ပဏီလီမိတက်
(ဃ) သမဝါယမအသင်း

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက-

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေမျိုးအစားနှင့် ပမာဏ
(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား
(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ
(နေရာမလုံလောက်ပါက သီးခြားစာရွက်ဖြင့် ဖော်ပြရန်)။

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီဖြစ်ပါက-

(က) ခွင့်ပြုမတည်ငွေရင်း **ကျပ် ၅၀၀၀ သန်း။**
(ခ) အစုရှယ်ယာအမျိုးအစား **သာမာန်။**
(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာ ပမာဏ **ကျပ် ၄၆၀ သန်း။**

၇။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ-

(က) မတည်ငွေ ရင်းပမာဏ (ကျပ်)

(၁) ငွေပမာဏ **ကျပ် ၇၀၀ သန်း။** ပူးတွဲ ( ၃ )
(နိုင်ငံခြားမတည်ငွေ ပါဝင်ပါက သီးခြားဖော်ပြရန်)

(၂) စက်ပစ္စည်းကိရိယာများ **ကျပ် ၄၂.၄၈ သန်း။** ပူးတွဲ ( ၃ )
တန်ဖိုးပမာဏ
(အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်)

(၃) အဆောက်အအုံများ/ မြေ **ကျပ် ၁၀၁၁.၈ သန်း။** ပူးတွဲ ( ၃ )

(၄) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ
တန်ဖိုးပမာဏ

(၅) ကုန်ကြမ်းပစ္စည်းတန်ဖိုး ပမာဏ
(အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်)

**စုစုပေါင်း** **ကျပ် ၁၇၅၄.၂၈ သန်း**

(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့် **ကျပ်** **အမေရိကန်ဒေါ်လာ**

(၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ **၄၂.၄၈သန်း** **၇.၀၈သန်း** ပူးတွဲ ( ၅ )
စသည့် ပစ္စည်းတို့၏ တန်ဖိုးပမာဏ
(အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်)

(၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြား
အထားတူပစ္စည်းများ၏ တန်ဖိုး
(အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်)

(၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏
တန်ဖိုးပမာဏ

(ဂ) တည်ဆောက်မှုကာလ **(၄) နှစ်။**

(ဃ) ပမာဏ ပူးစမ်းလေ့လာမှု ပြုလုပ်မည့်ကာလ **ဆောင်ရွက်ပြီး။**

(င) တည်ဆောက်မှုစတင်မည့်အချိန် **ခွင့်ပြုမိန့် ရရှိသည့်နေ့မှစပြီးဆောင်ရွက်မည်။**

၈။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သော အချက်အလက်များ-

(က) လုပ်ငန်းအမျိုးအစား (construction and leasing of Plaza, condominium, Super Market & office,Hotel)

(ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှု စသည်ဖြင့် ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် ဒေသများ **မြေကွက်အမှတ် (၆၂၄၊၆၂၇၊၆၃၂၊၆၃၅) ၇၇လမ်းနှင့် ၇၈လမ်းကြား၊ လမ်း၃၀ နှင့် ၃၃ လမ်း ကြားချမ်းအေးသာစံ မြို့နယ်၊ မန္တလေးမြို့။**

(ဂ) ဆောင်ရွက်ပုံနည်းစနစ် **တည်ဆောက်လုပ်ဆောင်လွှဲပြောင်းပေးခြင်းစံနစ်၊**

(ဃ) နှစ်စဉ် စက်သုံးဆီ လိုအပ်ချက်–

| | **အမျိုးအစား** | **အရေအတွက်** |
|---|---|---|
| ၁။ | **ဒီဇယ်** | **၅၀၀၀၀ ဂါလံ** |
| ၂။ | **ဓါတ်ဆီ** | **၅၀၀၀၀ ဂါလံ** |

(င) နှစ်စဉ် လျှပ်စစ် ဓါတ်အားလိုအပ်ချက်–

| | **အားအသုံးပြုမှု** | **မြင်းကောင်ရေ** |
|---|---|---|
| ၁။ | လျှပ်စစ်ဓါတ်အား (လျာထားချက်) | ၁၀၀၀၀၀၀၀ KWH |
| ၂။ | ဒီဇယ်အင်ဂျင်စက်အင်အား | ၅၀၀ KW |
| ၃။ | ဘွိုင်လာအသုံးပြု အင်ဂျင်စက်အား | |
| ၄။ | သဘာဝဓါတ်ငွေ့သုံးစက်အား | |
| ၅။ | ပေးပို့သည့် အခြားအား (ရေအား/လေအား စသည်များ) | |

(စ) နှစ်စဉ်ရေလိုအပ်ချက်

**တစ်ရက် ရေလိုအပ်ချက်** **၁၀၀၀၀၀ ဂါလံ**

(ဆ) နှစ်စဉ် ထုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်း လိုအပ်ချက်

(ဇ) အဆောက်အအုံ လိုအပ်ချက် (ပူးတွဲ = ၄ )

(ဈ) မြေနေရာ အမျိုးအစားနှင့် အကျယ်အဝန်း လိုအပ်ချက် **၁၂.၁၈၈၁ ဧက**
(မန္တလေးမြို့စည်ပင်သာယာရေးကော်မတီပိုင်မြေ)

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ဆောင်ရွက်မည့် ဝန်ဆောင်မှု **ပူးတွဲ** (၇.၈.၉)

(ဋ) ရောင်းချမည့်နည်းစံနစ်

၁၀။ နှစ်စဉ် ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ–

**ခန့်မှန်းခြေ**
**ကျပ်ငွေ နိုင်ငံခြားငွေ**

(က) ထုပ်ငန်းလည်ပတ်ရန် လိုအပ်မည့် ကျပ်ငွေ **ပူးတွဲ** ( ၃ )

(ခ) လိုအပ်မည့် နိုင်ငံခြားသုံးငွေ **ပူးတွဲ** ( ၃ )

(ဂ) ရရှိမည့် နိုင်ငံခြားသုံးငွေပမာဏ **ပူးတွဲ** (၇.၈.၉)

(ဃ) ပြည်ပသို့ တင်ပို့ရောင်းချနိုင်မည့်
ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဘိုးပမာဏ **ပူးတွဲ** ( – )

(င) နှစ်စဉ် ပြည်တွင်း၌ ရောင်းချနိုင်မည့် **ပူးတွဲ** (၇.၈.၉)
ကုန်ပစ္စည်း/ ဝန်ဆောင်မှု တန်ဘိုးပမာဏ

၁၁။ ဆောင်ရွက်မည့် စီးပွားရေးထုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများ စာရင်း–

(က) ပြည်တွင်းမှ လိုအပ်မည့် အမှုထမ်းများ– **ပူးတွဲ** ( ၁၀ )

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ–

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အထက်များ–

| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|---|
| (က) | နှစ်စဉ် ဝင်ငွေ ဂုဏ်မှု | | ပူးတွဲ (၇.၈.၉) |
| (ခ) | နှစ်စဉ် ထုပ်ငန်းကုန်ကျစရိတ် | | ပူးတွဲ ( ၁၁ ) |
| (ဂ) | နှစ်စဉ် အသားတင်အမြတ် | | ပူးတွဲ ( ၁၁ ) |
| (ဃ) | နှစ်အထိုက် ဂုင်းနှီးမြှုပ်နှံမှု | | ပူးတွဲ ( ၁၂ ) |
| (င) | အ ဂုင်းကျေကာထ | | ပူးတွဲ ( ၁၂ ) |
| (စ) | အခြားအကျိုးအမြတ်များ | | |
| (ဆ) | အထုပ်အကိုင်သစ်များ ပေါ်ပေါက်ထာမည့် အခြေအနေ | | |

၁၃။ ဆောင်ရွက် ဂုန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြု တင်ပြသည့် ဂုင်းနှီးမြှုပ်နှံမှုထုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ် စာချုပ်မူကြမ်း (ထိုအပ်သည့်ကိစ္စတွင်)

(ခ) ထုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင် ဂုာ အထောက်အထားများ၊

(ဂ) ထက် ဂုဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ ဖွဲ့စည်းခြင်းမဂုသေးပါက သင်းဖွဲ့မှတ်တမ်း မူကြမ်းနှင့် သင်းဖွဲ့ စည်းမျဉ်းမူကြမ်း၊

(ဃ) ထက် ဂုဖွဲ့စည်းပြီး အဖွဲ့စည်းဖြစ်ပါက ထက် ဂုအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ၊

ထက်မှတ်၊ (signature)

အမည်၊ ဦးတင်မောင်(ခ)ထိစန်းဂုင်

ဂုာထူး၊ အုပ်ချုပ်မှုဒါ ဂုက်တာ

(လျှောက်ထားသူ)

ကုမ္ပဏီဒါရိုက်တာများအဖွဲ့စာရင်း။ 

| စဉ် | အမည် | မှတ်ပုံတင်အမှတ် | ရာထူး | လိပ်စာ |
|---|---|---|---|---|
| ၁ | ဦးတင်မောင်(ခ)လီစန်းရှင် | ၉၊မရမ(နိုင်)၀၅၈၀၈၄ | အုပ်ချုပ်မှုဒါရိုက်တာ | အမှတ်-၂၈၇၊၃၅လမ်း၊ချမ်းအေးသာစံမြို့နယ် မန္တလေးမြို့။ |
| ၂ | ဦးတင်မောင် | ၉၊မရမ(ဧည့်)၀၀၀၂၀၀ | ဒါရိုက်တာ | အမှတ်-၃၇၊နန်းဦးလမ်း၊အောင်မြေသာစံမြို့နယ်၊ မန္တလေးမြို့။ |
| ၃ | ဦးစန်းဝင်း | ၉၊မရမ(နိုင်)၀၁၇၄၉၀ | ဒါရိုက်တာ | အမှတ်-၄၆၊၃၁လမ်းနှင့်၈၅လမ်းဒေါင့် အနောက်အောင်နန်းရိပ်သာ၊ မန္တလေးမြို့။ |
| ၄ | ဦးလီကျန်(ခ)ဦးမောင်အေး | ၁၃၊ကမန(နိုင်)၀၂၀၂၈၃ | ဒါရိုက်တာ | အမှတ်-၅၄၃၊၈၁လမ်း၊၃၅လမ်းနှင့် ၃၆လမ်းကြား၊ ချမ်းအေးသာစံမြို့နယ်၊မန္တလေးမြို့။ |
| ၅ | ဦးရန်ဂျာဂီ | ၁၃၊လရန(နိုင်)၀၈၃၉၃၇ | ဒါရိုက်တာ | အမှတ်-၂၇၊၂၉လမ်း၊ ၆၂လမ်းနှင့်၆၃လမ်းကြား၊ ချမ်းအေးသာစံမြို့နယ်၊ မန္တလေးမြို့။ |
| ၆ | ဒေါ်ထွေးစင် | ၉၊မရမ(နိုင်)၀၄၂၈၄၃ | ဒါရိုက်တာ | အမှတ်-၅၅၈၊၃၇လမ်းနှင့် ၃၈လမ်းကြား၊ မဟာအောင်မြေမြို့နယ်၊မန္တလေးမြို့။ |
| ၇ | ဦးအိုက်စံ | ၉၊မရမ(နိုင်)၀၃၀၉၅၁ | ဒါရိုက်တာ | အမှတ်-၁၅၉၊၃၃လမ်း၊၇၅လမ်းနှင့် ၇၆လမ်းကြား၊ မဟာအောင်မြေမြို့နယ်၊ မန္တလေးမြို့။ |
| ၈ | ဦးမင်းလွင် | ၆၊ကသန(နိုင်)၀၂၁၈၅၁ | ဒါရိုက်တာ | အမှတ်-၅၅၈၊သူရလမ်း၊၉ ရပ်ကွက်၊ တောင်ဥက္ကလာပမြို့နယ်၊ရန်ကုန်မြို့။ |
| ၉ | ဦးမြင့်ဝင်း | ၁၂၊ကသန(နိုင်)၀၄၈၄၃၄ | ဒါရိုက်တာ | အမှတ်-၄၀၂၊ကမ်းနားလမ်း၊ ကြည့်မြင်တိုင်မြို့နယ်၊ရန်ကုန်မြို့။ |

ပူးတွဲ- ၇

# ရင်းနှီးမြှုပ်နှံမှု စာရင်း။

(Million)

| Sr | No | Particulars | Cash ငွေသား | Loan ဒေါ်လာ | ညီမျှကျပ်ငွေ | Total မတည်ငွေစုစုပေါင်း |
|---|---|---|---|---|---|---|
| 1 | 2 | 3 | 5 | 6 | 7 | 8 |
| 1 | | **Investment Type** | | | | |
| | A | Local Capital<br>ပြည်တွင်းမတည်ငွေ | | | | |
| | 1 | In Cash (Current Capital)<br>ငွေသား | 700 | | | 700 |
| | 2 | Building in cash<br>အဆောက်အဦး | 1011.8 | | | 1011.8 |
| | 3 | In Machineries & Equipment and Construction Materials<br>စက်၊ စက်ပစ္စည်းတန်ဆာပလာ၊ ဆောက်လုပ်ရေးပစ္စည်း | | 7.08 | 42.48 | 42.48 |
| | | Total | 1711.80 | 7.08 | 42.48 | 1754.28 |